Shwe Sin La Min Co., Ltd. ၏ Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက် တင်ပြလာခြင်း | - | ၇-၆-၂၀၁၉ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း<br>- ပတ်ဝန်းကျင်<br>- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး<br>- YCDC | <br><br><br>၃-၁-၂၀၁၉<br>၃-၁-၂၀၁၉<br><br>၃-၁-၂၀၁၉ | ၄-၂-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၇-၁-၂၀၁၉ | | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၉-၁-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၉-၁-၂၀၁၉ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၂-၈-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၃၀-၈-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၈၂) ရက် | | |

| | | |
|---|---|---|
| ၉။ | ငွေကြေးအထောက်အထား | - ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ (၂-၁၁-၂၀၁၈)နေ့ ရှိ ငွေ လက်ကျန် ကျပ် ၃၆၀,၉၉၉,၅၆၀ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | CSR | - နှစ်စဉ်အသားတင်အမြတ်၏ ၂% |
| ၁၁။ | ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ နှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)ပါ အဓိက အချက်များ | - ရင်းနှီးမြှုပ်နှံသူသည် Mixed Use Development လုပ်ငန်းများ ဆောင်ရွက်မည့် ရန်ကင်းမြို့နယ်နှင့် ကမာရွတ်မြို့နယ်ရှိ မြေ(၂) ကွက် အသုံးပြုခွင့်အဖြစ် ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၄) ရပ်ကွက်၊ ဗိုလ်တထောင်ဘုရားလမ်းနှင့် ကုန်သည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်(၁၀ဂျေ)၊ အမှတ်(၁၁၂)ရှိ ဌာနပိုင်မြေ ၀.၈၂၆ဧက ခန့်တွင် အောက်ပါ အဆောက်အဦ (၆)လုံးကို ငွေ ကျပ် ၁၁၁၆၃.၃၁၆ သန်း ကုန်ကျခံ၍ ဌာနသို့ ဆောက်လုပ် ပေးရမည်- (BOT စာချုပ်မူကြမ်းအပိုဒ် ၁၊ ၅၊ ၆)<br>၁၁၉/ x ၄၁/ ၆ ခန်းတွဲ ၈ထပ် အဆောက်အဦ ၂လုံး (၇၈၀၆၄ စတုရန်းပေ)<br>၇၈/ x ၆၁/ ၄ ခန်းတွဲ ၈ထပ် အဆောက်အဦ ၁လုံး (၃၇၄၄၀ စတုရန်းပေ)<br>၅၈/ x ၄၀/ ၈ထပ် ရုံးခန်း အဆောက်အဦ ၁ လုံး (၁၉၂၀၀ စတုရန်းပေ)<br>၅၈/ x ၄၀/ ၈ထပ် ရုံးခန်း အဆောက်အဦ ၁ လုံး (၁၉၂၀၀ စတုရန်းပေ)<br>- လမ်းမတော်မြို့နယ် ၊ ဝါးတန်းလမ်းတွင် ၁၅၃/ x ၄၁/ ၈ခန်းတွဲ၈ထပ် အဆောက်အဦ ၁ လုံး (၅၀၁၈၄ စတုရန်းပေ)<br>- စမ်းချောင်းမြို့နယ်၊ အလုံလမ်း၊ ပိတောက်မြိုင်ရိပ်သာတွင် ၁၁၉/ x ၄၁/ ၆ ခန်းတွဲ ၈ထပ် အဆောက်အဦ ၁ လုံး (၃၉၀၃၂ စတုရန်းပေ)<br>- ဆက်စပ်လုပ်ငန်းများ (၇ ပေမြင့်သော အုတ်စည်းရိုး၊ အကျယ် ၁၀ပေ ထု ၉လက်မ ကွန်ကရစ်လမ်း၊ အကျယ် ၃ပေ အနက် ၂ပေ ရေနုတ်မြောင်း၊ နေထိုင်သည့် လူဦးရေ အားလုံး အတွက် လုံလောက်သည့် သုံးရေ ရရှိရန် ဆောင်ရွက် ပေးခြင်း၊ နေထိုင်သည့် လူဦးရေ အားလုံးအတွက် လုံလောက်သည့် လျှပ်စစ်မီး ထရန်စဖော်မာ အပါအဝင်) ရရှိရန် ဆောင်ရွက်ပေးခြင်း၊ ရဲစခန်းအတွက် ၅၀၀ ကေဗွီအေ (အရန်မီးစက်) ၁ လုံး |

# မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Sin La Min Co., Ltd. မှ Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Shwe Sin La Min Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူအမည် | - ဦးတင်ငြိမ်း |
| | ရင်းနှီးမြှုပ်နှံမှု ပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီ လမ်းနှင့် ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် 37-F၊ မြေကွက်အမှတ် ၁ အီး၊ မူးယစ်ပြတိုက်ဝင်းရှိ မြေဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိယာ ၁.၈၂၉၆ ဧက |
| ၃။ | မြေပိုင်ရှင် | - ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁.၈၂၉၆ ဧက |
| | မြေငှားရမ်းခ | - ဌာနပိုင် မြေကို နှစ် ၅၀ အသုံးပြုခွင့်အဖြစ် ကုမ္ပဏီမှ ဌာနသို့ မြေငှားခ ပေးသွင်းရခြင်း မရှိဘဲ အဆောက်အဦ(၆)လုံး ဆောက်လုပ် ပေးရပါသည်။ |
| | အဆောက်အဦအရေအတွက် | - ၄ ထပ် အဆောက်အဦ ၃ လုံး |
| ၄။ | BOT စာချုပ် သက်တမ်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - BOT စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ကနဦး ၅၀ နှစ် ၅၀ နှစ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - ကျပ် ၁၃၆၆၀.၀၀ သန်း |
| ၇။ | ဝန်ထမ်းခန့်ထားမှု | - |

| | | ပြည်တွင်း | ပြည်ပ |
|---|---|---|---|
| ဦးရေ | | ၅၆ ဦး | - |
| အမြင့်ဆုံးလစာ | ကျပ် | ၂,၅၀၀,၀၀၀ | - |
| အနိမ့်ဆုံးလစာ | ကျပ် | ၁၄၄,၀၀၀ | - |

၈။ ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်)

| အခန်း အမျိုးအစား | ငှားရမ်းနိုင်မည့် ဧရိယာ (Sq-ft) | ငှားရမ်းနိုင်မည့် ရာခိုင်နှုန်း (%) | ငှားရမ်းခ နှုန်းထား (ကျပ်) |
|---|---|---|---|
| Business Centre | ၁၁၄၁၁ | ၁၀ | ၉၈၀ |
| | ၁၁၃၉၆ | ၃၀ | ၉၈၀ |
| | ၁၁၃၉၆ | ၃၀ | ၉၈၀ |
| | ၁၁၃၉၆ | ၃၀ | ၉၈၀ |
| Shop House | ၁၆ ခန်း | ၃၀ | ၂,၀၀၀,၀၀၀ |

| | | |
|---|---|---|
| | | -BOT စာချုပ် သက်တမ်းကာလမှာ ကော်မရှင် ခွင့် ရရှိပြီး စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှစ၍ နှ ဖြစ်ပါသည်။ (BOT စာချုပ်မူကြမ်းအပိုဒ် ၉) -စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ ဖြစ်စေ (သို့မ စာချုပ် ရပ်စဲသည့်အခါ ဖြစ်စေ အငှားချထား သည့် အဆောက် အဦအား အငှားချထားသူသို့ အဖိုးစားနား တစ်ရာ မပါဘဲ ပြန်လည် လွှဲပြောင်းပေးရမည်။ (BOT မူကြမ်း အပိုဒ် ၁၇) |
| ၁၂။ | စိစစ်တင်ပြချက် | - လုပ်ငန်းဆောင်ရွက်မည့် ပြည်ထဲရေးဝန်ကြီးဌာနပိုင် Shwe Sin La Min Co., Ltd. မှ အသုံးပြုရန်အတွက် အောင်မြင်ထားပြီး ဗိုလ်တထောင်မြို့နယ် ၀.၈၂၆ တွင် အဆောက်အဦ ၄ လုံး (၁၂၈)ခန်း၊ လမ်းမတော်မြို ၀.၂၄၄ ကေပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄ အလုံမြို့နယ် ပိတောက်မြိုင် ရဲရိပ်သာပေါ်တွင် အဆောက ၁ လုံး (၄၈)ခန်း စုစုပေါင်း အဆောက်အဦ ၆ လုံး (၂၄ အား ငွေ ကျပ် ၁၁၁၆၃.၃၁၆ သန်း ကုန်ကျခံ၍ ဌ ဆောက်လုပ် ပေးရခြင်းဖြစ်ပါသည်။<br>- မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် လမ်းမတော်မြို့နယ်၊ ဝါးတန်း အကွက်အမှတ်(3E)ရှိ မြေဧရိယာ ၀.၂၄၄ ဧက နှင့် မရမ်း မြို့နယ်၊ ပါရမီစက်ပြင်ဝင်းမြေ ၂.၇ ဧက တို့ တွင် Shwe La Min Co., Ltd. နှင့် အကျိုးတူ ခံစားခွင့်အဖြစ် စာချုပ် ချုပ်ဆို၍ အသုံးပြုခွင့် ဆောင်ရွက်နိုင်ရန် ပြည်ထဲ ဝန်ကြီးဌာနမှ ပြည်ထောင်စု အစိုးရအဖွဲ့၊ စီးပွား ကော်မတီသို့ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၃၁ ရက်နေ့ ကျင်းပသော(၁၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေ တင်ပြခဲ့ရာ **မူအားဖြင့် သဘောတူခဲ့ပြီး** ဖြစ်ပါသည်။<br>- အဆိုပါ ခွင့်ပြုခဲ့သည့် မြေနေရာ ၂ နေရာအ လမ်းမတော်မြို့နယ် မြေနေရာအစား ကမာရွတ်မြို့ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့် မြေကွက် အ (1E)၊ မူးယစ်ပြတိုက်ဝင်းရှိ မြေ ၁.၈၂၉၆ ဧကအား ပြောင် အသုံးပြုခွင့် အတွက် ပြည်ထဲရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲ ကော်မတီ အစည်းအဝေး (၃/၂၀၁၈) (၃၀-၃-၂၀၁၈)မှ ခွ ပေးခဲ့ခြင်းသာဖြစ်ပြီး ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွား ကော်မတီသို့ ပြန်လည် တင်ပြခဲ့ခြင်း မရှိခဲ့ပါ။<br>- သို့ပါ၍ ပြည်ထဲရေးဝန်ကြီးဌာနပိုင်ဖြစ်သည့် ကမာ မြို့နယ်နှင့် မရမ်းကုန်း မြို့နယ်တို့ရှိ မြေကွက်(၂)ကွက |

| | | |
|---|---|---|
| | | Shwe Sin La Min  Co., Ltd. မှ မြေငှားစာချုပ် ချု<br>အကျိုးတူ ခံစားခွင့်အား စီးပွားရေးရာ ကော်မတီ၏ (၇/၂<br>(၁၅-၅-၂၀၁၉)အစည်းအဝေးမှ ပြည်ထောင်စုအစိုးရအ<br>တင်ပြရန် ဆုံးဖြတ်ခဲ့ပြီး ပြည်ထောင်စုအစိုးရအ<br>၁၀/၂၀၁၉ (၂၃-၅-၂၀၁၉) အစည်းအဝေးမှ မြေကွက်(၂)<br>အား ပထမအကြိမ် သက်တမ်းနှစ် ၅၀ နှင့် ၁၀ နှစ် နှစ်<br>ဖြင့် မြေငှားစာချုပ် ချုပ်ဆို အသုံးပြုခွင့်ပေးရန် သဘေ<br>ခွင့်ပြုခဲ့ပါသည်။<br>- မြေအသုံးပြုခွင့်အဖြစ် ကုမ္ပဏီမှ ဌာနသို့ ဆောက်<br>ပေးရသည့် အဆောက်အအုံ (၆)လုံးအနက် လမ်းမ<br>မြို့နယ်နှင့် အလုံမြို့နယ်ရှိ အဆောက်အအုံများမှာ<br>ရာခိုင်နှုန်းခန့် ပြီးစီးပြီ ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေ ၁.၈၂၉၆<br>(၇၄၀၄.၁၃၅ စတုရန်းမီတာ) အတွက် အသုံးပြုခမှာ<br>၁၁၁၆၃.၃၂ သန်း အနက် ကျပ် ၄၅၀၉.၀၀ သန်း<br>၁ စတုရန်းမီတာလျှင် ကျပ် ၁၂,၁၇၉ (၈ ဒေါ်လာ<br>ခန့်ရှိပါသည်။<br>- Traffic Management Plan တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၄/မ-၀၄၉/၂၀၁၉( ၃၈၁ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဩဂုတ် လ ၂၇ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့် အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Sin La Min Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်ရှိ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင်မြေတွင် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ Shwe Sin La Min Co., Ltd. မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် 37-F၊ မြေကွက်အမှတ် ၁ အီး၊ မူးယစ်ပြတိုက်ဝင်းရှိ မြေ ဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိယာ ၁.၈၂၉၆ ဧကတွင် BOT စနစ်ဖြင့် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထဲရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ နှင့် Shwe Sin La Min Co., Ltd. တို့ အကြား ချုပ်ဆိုမည့် BOT စနစ်ဖြင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း သဘောတူ စာချုပ် (မူကြမ်း)နှင့် ယင်းစာချုပ် (မူကြမ်း)ပေါ်တွင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေကို နှစ် ၅၀ အသုံးပြုရန် အတွက် ကုမ္ပဏီမှ ဌာနသို့ မြေငှားရမ်းခ ပေးသွင်းရခြင်း မရှိဘဲ ဌာနမှ တောင်းဆိုသော အဆောက်အဦ(၆)လုံးကို ဌာနမှ သတ်မှတ်သော စံချိန် စံညွှန်းများနှင့်အညီ ဆောက်လုပ်ပေး ရခြင်း ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ နှင့် Shwe Sin La Min Co., Ltd. တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် BOT စနစ်ဖြင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း သဘောတူ စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူသည် Mixed Use Development လုပ်ငန်းများ ဆောင်ရွက်မည့် ရန်ကင်းမြို့နယ်နှင့် ကမာရွတ်မြို့နယ်ရှိ မြေ(၂)ကွက် အသုံးပြုခွင့်အဖြစ် ရန်ကုန် တိုင်းဒေသကြီး၊ အမှတ်(၄)ရပ်ကွက်၊ ဗိုလ်တထောင်ဘုရားလမ်းနှင့် ကုန်သည်လမ်း ထောင့်၊ မြေတိုင်းရပ်ကွက်(၁၀ဂျေ)၊ အမှတ်(၁၁၂)ရှိ ဌာနပိုင်မြေ ၀.၈၂၆ဧက ခန့်တွင်

အောက်ပါ အဆောက်အဦ(၆)လုံးကို ငွေ ကျပ် ၁၁၁၆၃.၃၁၆ သန်း ကုန်ကျခံ၍ ဌာနသို့ ဆောက်လုပ်ပေးရမည်- (BOT စာချုပ်မူကြမ်းအပိုဒ် ၁၊ ၅၊ ၆)

- ၁၁၉' x ၄၁' ၆ ခန်းတွဲ ၈ထပ် အဆောက်အဦ ၂လုံး (၇၈၀၆၄ စတုရန်းပေ)
- ၇၈' x ၆၁' ၄ ခန်းတွဲ ၈ထပ် အဆောက်အဦ ၁လုံး (၃၇၄၄၀ စတုရန်းပေ)
- ၅၈' x ၄၀' ၈ထပ် ရုံးခန်း အဆောက်အဦ ၁ လုံး (၁၉၂၀၀ စတုရန်းပေ)
- လမ်းမတော်မြို့နယ် ၊ ဝါးတန်းလမ်းတွင် ၁၅၃' x ၄၁' ၈ခန်းတွဲ၈ထပ် အဆောက်အဦ ၁ လုံး (၅၀၁၈၄ စတုရန်းပေ)
- စမ်းချောင်းမြို့နယ်၊ အလုံလမ်း၊ ပိတောက်မြိုင်ရိပ်သာတွင် ၁၁၉' x ၄၁' ၆ ခန်းတွဲ ၈ထပ်အဆောက်အဦ ၁ လုံး (၃၉၀၃၂ စတုရန်းပေ)
- ဆက်စပ်လုပ်ငန်းများ (၇ ပေမြင့်သော အုတ်စည်းရိုး၊ အကျယ် ၁၀ပေ ထု ၉လက်မ ကွန်ကရစ်လမ်း၊ အကျယ် ၃ပေ အနက် ၂ပေ ရေနုတ်မြောင်း၊ နေထိုင်သည့် လူဦးရေ အားလုံးအတွက် လုံလောက်သည့် သုံးရေရရှိရန် ဆောင်ရွက်ပေးခြင်း၊ နေထိုင်သည့် လူဦးရေ အားလုံးအတွက် လုံလောက်သည့် လျှပ်စစ်မီး ထရန်စဖော်မာ အပါအဝင်) ရရှိရန်ဆောင်ရွက်ပေးခြင်း၊ ရဲစခန်းအတွက် ၅၀၀ ကေဗွီအေ(အရန် မီးစက်) ၁ လုံး

(ခ) BOT စာချုပ် သက်တမ်းကာလမှာ ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ နှစ်(၅၀) ဖြစ်ပါသည်။ (BOT စာချုပ်မူကြမ်းအပိုဒ် ၉)

(ဂ) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ ဖြစ်စေ (သို့မဟုတ်)စာချုပ် ရပ်စဲသည့် အခါ ဖြစ်စေ အငှားချထားသည့် မြေနှင့် အဆောက်အဦအား အငှားချထားသူသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါဘဲ ပြန်လည် လွှဲပြောင်းပေးရမည်။ (BOT စာချုပ် မူကြမ်းအပိုဒ် ၁၇)

၄။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၃ နှစ် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁၃,၆၆၀.၀၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ကျပ်(သန်း) |
|---|---|---|
| (က) | ငွေသား | ၂၅၆.၀၀ |
| (ခ) | အဆောက်အဦဆောက်လုပ်မှု ကုန်ကျစရိတ် | ၈၈၉၅.၀၀ |
| (ဂ) | အခြား (မြေအသုံးပြုမှုအတွက် ဌာနပိုင် အဆောက်အဦ ဆောက်လုပ်ပေးသည့် ကုန်ကျစရိတ်) | ၄၅၀၉.၀၀ |
| | **စုစုပေါင်း** | **၁၃၆၆၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက်စုစုပေါင်း ပြည်တွင်းဝန်ထမ်း ၅၆ ဦးခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံး ဝန်ထမ်း၏ လစာမှာ တစ်လလျှင် ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်း၏ လစာမှာ တစ်လလျှင် ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ၆ နှစ်မြောက် ဝန်ဆောင်မှု နှုန်းထားနှင့် ဝန်ဆောင်မှုပုံစံမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| စဉ် | အခန်း အမျိုးအစား | ငှားရမ်းနိုင်မည့် ဧရိယာ (Sq-ft) | ငှားရမ်းနိုင်မည့် ရာခိုင်နှုန်း (%) | ငှားရမ်းခ နှုန်းထား (ကျပ်) | တစ်နှစ် ငှားရမ်းခ နှုန်းထား (ကျပ်) |
|---|---|---|---|---|---|
| ၁ | Business Centre(Exhibition) | ၁၁၄၁၁ | ၁၀ | ၉၈၀ | ၄၀၈,၁၅၃,၅၈၅ |
| | Business Centre(Education) | ၁၁၃၉၆ | ၃၀ | ၉၈၀ | ၄၀,၂၀၅,၀၈၈ |
| | Business Centre(Education) | ၁၁၃၉၆ | ၃၀ | ၉၈၀ | ၄၀,၂၀၅,၀၈၈ |
| | Business Centre(Office) | ၁၁၃၉၆ | ၃၀ | ၉၈၀ | ၄၀,၂၀၅,၀၈၈ |
| ၂ | Shop House | ၁၆ ခန်း | ၃၀ | ၂,၀၀၀,၀၀၀ | ၅၇,၆၀၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား မှတ်ချက်များတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **နောက်ဆက်တွဲ(က)**

လုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် ကျင်းပသည့် ရန်ကုန် တိုင်းဒေသကြီးအစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် ၂၆/၂၀၁၉၊ ဆုံးဖြတ်ချက် အပိုဒ်(၇၀)အရ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိ ကြောင်း။

(ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန **နောက်ဆက်တွဲ(ခ)**

ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်နှင့် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်း ကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ညွှန်ကြားချက်များအား လိုက်နာမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

(ဂ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ နောက်ဆက်တွဲ(ဂ) အဆိုပြု အဆောက်အဦ ၃ လုံး ဆောက်ရန် ကိစ္စနှင့်ပတ်သက်၍ ဆောက်လုပ်မည့် အဆောက်အဦများသည် စီးပွားရေးအဆောက်အဦများဖြစ်သဖြင့် မီးသတ်ဦးစီးဌာန ၏ ထောက်ခံချက်နှင့်အတူ ကားပါကင်များ လုံလောက်စွာ ထားရှိသည့် ပုံစံများ ရေးဆွဲ တင်ပြလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ် ဆောင်ရွက်မည် ဖြစ် ကြောင်းနှင့် ကန့်ကွက်ရန် မရှိကြောင်း။

( ကုမ္ပဏီမှ YCDC ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည့် အစီအစဉ် များအား ပြည်ထဲရေးဝန်ကြီးဌာနမှတစ်ဆင့် YCDC သို့ ပြန်လည် ပေးပို့ထားပြီး ဖြစ်ပါသည်။ )

၉။ ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ (၂-၁၁-၂၀၁၈)နေ့ ရှိ ငွေလက်ကျန် ကျပ် ၃၆၀,၉၉၉,၅၆၀ ရှိကြောင်း တင်ပြထားပါသည်။ လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များ နှင့် CSR အဖြစ် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်းကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။

**သုံးသပ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) ပြည်ထဲရေးဝန်ကြီးဌာနပိုင်မြေအား ၁၅-၂-၂၀၁၈ ရက်နေ့တွင်တင်ဒါ ခေါ်ယူခဲ့ရာ ကုမ္ပဏီ၁၇ ခုအနက် Shwe Sin La Min Co., Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်မည့် ပြည်ထဲရေးဝန်ကြီးဌာနပိုင်မြေအား Shwe Sin La Min Co., Ltd. မှ အသုံးပြုရန်အတွက် တင်ဒါအောင်မြင်ထားပြီး ဗိုလ်တထောင်မြို့နယ် ၀.၈၂၆ ဧကပေါ်တွင် အဆောက်အဦ ၄ လုံး (၁၂၈)ခန်း၊ လမ်းမတော်မြို့နယ် ၀.၂၄၄ ဧကပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄)ခန်း၊ အလုံမြို့နယ် ပိတောက်မြိုင် ရဲရိပ်သာပေါ်တွင် အဆောက်အဦ ၁ လုံး (၄၈)ခန်း စုစုပေါင်း အဆောက်အဦ ၆ လုံး (၂၄၀)ခန်းအား ငွေ ကျပ် ၁၁၁၆၃.၃၁၆ သန်း ကုန်ကျခံ၍ ဌာနသို့ ဆောက်လုပ် ပေးရခြင်းဖြစ်ပါသည်။

(ဂ) မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်း၊ အကွက်အမှတ်(3E)ရှိ မြေဧရိယာ ၀.၂၄၄ ဧက နှင့် မရမ်းကုန်းမြို့နယ်၊ ပါရမီစက်ပြင်ဝင်းမြေ ၂.၇ ဧက တို့ တွင် Shwe Sin La Min Co., Ltd. နှင့် အကျိုးတူ ခံစားခွင့်အဖြစ် မြေငှားစာချုပ် ချုပ်ဆို၍ အသုံးပြုခွင့် ဆောင်ရွက်နိုင်ရန် ပြည်ထဲရေးဝန်ကြီးဌာနမှ ပြည်ထောင်စု အစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၃၁ ရက်နေ့တွင် ကျင်းပသော(၁၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ **မူအားဖြင့် သဘောတူခဲ့ပြီး** ဖြစ်ပါသည်။

(ဃ) အဆိုပါ ခွင့်ပြုခဲ့သည့် မြေနေရာ ၂ နေရာအနက် လမ်းမတော်မြို့နယ် မြေနေရာ အစား ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့် မြေကွက်

အမှတ်(1E)၊ မူးယစ်ပြတိုက်ဝင်းရှိ မြေ ၁.၈၂၉၆ ဧကအား ပြောင်းလဲ အသုံးပြုခွင့်အတွက် ပြည်ထဲရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး (၃/၂၀၁၈) (၃၀-၃-၂၀၁၈)မှ ခွင့်ပြုပေးခဲ့ခြင်းသာဖြစ်ပြီး ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ပြန်လည် တင်ပြခဲ့ခြင်း မရှိခဲ့ပါ။

(င) သို့ပါ၍ ပြည်ထဲရေးဝန်ကြီးဌာနပိုင်ဖြစ်သည့် ကမာရွတ်မြို့နယ်နှင့် မရမ်းကုန်းမြို့နယ်တို့ရှိ မြေကွက်(၂)ကွက်ကို Shwe Sin La Min Co., Ltd. မှ မြေငှားစာချုပ်ချုပ်ဆို၍ အကျိုးတူခံစားခွင့်အား စီးပွားရေးရာကော်မတီ၏ (၇/၂၀၁၉) (၁၅-၅-၂၀၁၉)အစည်းအဝေးမှ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန် ဆုံးဖြတ်ခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၀/၂၀၁၉ (၂၃-၅-၂၀၁၉)အစည်းအဝေးမှ မြေကွက်(၂)ကွက်အား ပထမအကြိမ် သက်တမ်းနှစ် ၅၀ နှင့် ၁၀ နှစ် နှစ် ကြိမ်ဖြင့် မြေငှားစာချုပ် ချုပ်ဆို အသုံးပြုခွင့်ပေးရန် သဘောတူ ခွင့်ပြုခဲ့ပါသည်။

(စ) မြေအသုံးပြုခွင့်အဖြစ် ကုမ္ပဏီမှ ဌာနသို့ ဆောက်လုပ်ပေးရသည့် အဆောက်အအုံ (၆)လုံးအနက် လမ်းမတော်မြို့နယ်နှင့် အလုံမြို့နယ်ရှိ အဆောက်အအုံများမှာ ၁၀၀ ရာခိုင်နှုန်းခန့် ပြီးစီးပြီ ဖြစ်ပါသည်။

(ဆ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေ ၁.၈၂၉၆ ဧက (၇၄၀၄.၁၃၅ စတုရန်းမီတာ) အတွက် အသုံးပြုခမှာ ကျပ် ၁၁၁၆၃.၃၂ သန်း အနက် ကျပ် ၄၅၀၉.၀၀ သန်းဖြစ်၍ ၁ စတုရန်းမီတာလျှင် ကျပ် ၁၂,၁၇၉ (၈ ဒေါ်လာ)နှုန်း ခန့်ရှိပါသည်။

(ဇ) Traffic Management Plan တင်ပြထားပါသည်။

(ဈ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Sin La Min Co., Ltd. မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်တွင် BOT စနစ်ဖြင့် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထဲရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာခြင်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသ
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၂၂ ရ

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**
ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၆.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက
၄ / မ - ၀၄၈ ၊ ၀၄၉/ ၂၀၁၉(၂၄၅)

၁။ မြန်မာကုမ္ပဏီဖြစ်သော Shwe Sin La Min Co.,Ltd မှ ပြည်ထဲရေးဝန်ကြီးဌာ
မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ချော်တွင်းကုန်းမီးပွိုင့်န
မဥ္စူမီးပွိုင့်ကြား၊ ပါရမီလမ်း၊ အမှတ်(၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ၄၂ .ခ၊ မြေကွက်အမှတ် ၄
က နှင့် ၂ ခ ၊ ပါရမီရဲစက်ပြင်ဝင်းရှိ မြေဧရိယာ ၂.၆၆၆ ဧကတွင် Shopping Complex တည်ဆောက်
ဆိုင်ခန်းများ ငှားရမ်းခြင်းလုပ်ငန်းနှင့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းန
ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် 37-F ၊ မြေကွက်အမှတ်( ၁) အီး၊ မူးယစ်ပြတိုက်ဝင်း
မြေဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိယာ ၁.၈၂၉၆ ဧကတွင် Business Center နှင့် Shop Hous
တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း(၂)ခုတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွ
ပြုပါရန် တင်ပြလာခြင်းအား သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းလာမှုအပေါ် ပြည်ထောင်
အစိုးရအဖွဲ့သို့ တင်ပြခွင့်ပြုချက် (သို့မဟုတ်) စီးပွားရေးရာကော်မတီသို့ တင်ပြခွင့်ပြုချက် ရယူထားသည
အထောက်အထားများတင်ပြရန် သဘောထားမှတ်ချက် ပြန်ကြားခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ
ကော်မရှင်မှ ပြည်ထဲရေးဝန်ကြီးဌာနက ပေးပို့လာသည့် အထောက်အထားများ ပူးတွဲလျက် သဘောထ
မှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၄.၇.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီ
အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၀) အရ ပြည်ထောင်စ
အစိုးရအဖွဲ့၏ ၆.၆.၂၀၁၉ ရက်စွဲပါစာအမှတ်၊ ၆/၁၆၈/အမရ (၁၀/၂၀၁၉) ဆုံးဖြတ်ချက်အပိုဒ်(၆)အ
ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပေးရန် ခွင့်ပြုသည့်အတွက်
ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နေဒ်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

D/2019/Cabinet 26(6)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာ

ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

Shwe Sin La Min Co.,Ltd

လက်ခံစာတွဲ

မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအ
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၁/၁၉
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Mj-032
4/2

အကြောင်းအရာ။ **Shwe Sin La Min Co., Ltd. မှ Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက ၄/ မ-၀၄၉/ ၂၀၁၉(၀၄၉)

၁။ မြန်မာကုမ္ပဏီဖြစ်သော Shwe Sin La Min Co., Ltd. မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် 37(F)၊ မြေကွက်အမှတ်- ၁(အီး)၊ မူးယစ်ပြတိုက်ဝင်းရှိ မြေဧရိယာ ၁၆.၂၆ ဧကအနက် မြေဧရိယာ ၁.၈၂၆၉ ဧက (၇,၃၉၃.၂၀ စတုရန်းမီတာ) တွင် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၇,၃၉၃.၂၀ စတုရန်းမီတာ) တွင် Basement အပါအဝင် အထပ် (၄) ထပ်ရှိ Business Center (၁) လုံး၊ အထပ် (၂) ထပ်ရှိ Shop House (၂) တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ပြည်ထဲရေးဝန်ကြီးဌာနနှင့် ရွှေစင်လမင်းကုမ္ပဏီတို့ အကြား BOT စနစ်ဖြင့် Mixed Use Development လုပ်ငန်းအား အကျိုးတူ ပူးပေါင်းဆောင်ရွက်နိုင်ရန် ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း သဘောတူစာချုပ် (မူကြမ်း) ဖော်ပြပါရှိ ပါကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန မှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကာ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် စွန့်ပစ်ရေသန့်စင်စနစ်တည်ဆောက် အသုံးပြုသွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Shwe Sin La Min Co., Ltd. မှ Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်း လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် လိုအပ်သော အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေး လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေး လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ဈေးဆိုင်ခန်းများ၊ ရုံးခန်းများနှင့် စီးပွားရေးလုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့် စားသောက်ဆိုင်များမှ ထွက်ရှိလာမည့် အကြွင်းအကျန်များကို သတ်မှတ်စံချိန်/စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်မှုမရှိဘဲ စွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Shwe Sin La Min Co., Ltd. မှ Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်

အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း
တင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်
နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း
ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထဲရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

6/3

MS 60
6/3

NPT 0956
4.9.19

စာအမှတ်၊ ပထရ/၂-၃(၃၃၀ )/ ၃-ထောက်

ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၂

သို့

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အကြောင်းအရာ။ မှူးယစ်ပြတိုက်ဝင်းရှိ မြေပေါ်တွင် Business Center နှင့် Shop Ho
တည်ဆောက်ပြီးငှားရမ်းခြင်းလုပ်ငန်းများကို သယံဇာတနှင့် သဘာဝပတ်ဝန်း
ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်နှင့်အညီ ဆောင်ရွက်
ကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရ
၄/ မ-၀၄၉/ ၂၀၁၉(၀၆၀)

၁။ Shwe Sin La Min Co;Ltd မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွ အမှတ် 37-F၊ မြေကွက်အမှတ် ၁ အီး၊ မှူးယစ်ပြတိုက်ဝင်းရှိ မြေဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိ ၁.၈၂၉၆ ဧကတွင် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းမျာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ် ကော်မရှင်မှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ သယံဇာတနှင့်သဘာဝပတ်ဝန်းက ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေ လုပ်ငန်းအဖွဲ့မှ အပိုဒ်(၂)ပါ (က) မှ (ဆ) အထိ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာ အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက် လိုအပ်မည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေ အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment)၊ ပတ်ဝန်းကျင်စီမံခန့်ခွဲ

အစီအစဉ်(Environmental Management Plan-EMP) များအား Third Party Agent
ဆက်သွယ်ရေးဆွဲပြီး သဘောထားမှတ်ချက်အပေါ် ဆောင်ရွက်ချက်များအား ဆက်လက်ပေးပို့သွား
ဖြစ်ကြောင်း အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး (

( ခိုင်ထွန်းဦး၊ ခေတ္တအမြဲတမ်းအတွင်းဝ

**မိတ္တူကို**

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လက်ခံ/ မျှော/ စာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉ / ၀၁ ( ၃၉၁ )/ စသ
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ကောင်းခံခြင်းကိစ္စ**
ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃ - ၁ - ၂၀၁၉ ရက်စွဲပါ စာအမှတ်
မရက-၄/မ-၀၄၉/၂၀၁၉(၀၁၁)

၁။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင်၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှ
ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် ၃၇/F ၊ မြေကွက်အမှတ် ၁/အီး၊ မူးယစ်ပြတိုက်ဝင်း
မြေဧရိယာ ၁၆.၂၆၆ ဧက အနက် မြေဧရိယာ ၁.၈၂၉၆ ဧကတွင် Shwe Sin La Min Co.,Ltd
Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းများကို မြန်မာနိုင်
ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဦးတင်ငြိမ်းမှ ပြည်ထဲရေ
ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြလာသဖြင့် လိုအပ်သလိုစိစစ်၍ သဘောထားမှတ်ချက်အ
၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၈ ရက် အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြ
လာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ မြေပြင်စစ်ဆေးရာတွင် အဆိုပြုမြေကွက်မှာမြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် မူးယစ်ပြတိုက
မြေဧရိယာ ၁၆.၂၆၆ဧက ရှိသည့်အနက် မြေဧရိယာ ၁.၈၂၉၆ဧက အား ကျွန်းတောလမ်းဘက်အခြမ်
မျက်နှာမူ၍ Shwe Sin La Min Co.,Ltd မှ Business Center နှင့် Shop House အဆောက်အအ
(၃)လုံးဆောက်လုပ်မည်ဖြစ်ကြောင်း၊ အဆိုပြုမြေကွက်အပိုင်းအား (ဝဲ၊ ယာ၊ နောက်)အုတ်ခြံစည်းရိ
ရှေ့ဘက်အားသံပန်း + သွပ်ပြားခြံစည်းရိုးကာရံထားကြောင်း၊ တင်ပြပါပုံစံ အတိုင်းအတ
(၄၁၀'/၂၆၀'+၁၅၀'×၁၀၀'/၁၅၀'+၇၀')နှင့် မြေပြင်အတိုင်းအတာကိုက်ညီမှုရှိကြောင်း၊ အဆိုပြုမြေကွ
အတွင်း ရှေ့ဘက်(ကျွန်းတောလမ်းဘက်မျက်နှာမူ၍) (၁)ထပ်သွပ်မိုး၊ သွပ်ကာ အဆောက်အအုံယောင်
(၇)လုံး(ကားရေဆေးဆိုင်+ ကားအလှပစ္စည်းအရောင်းဆိုင်)နှင့် (၁)ထပ်သွပ်မိုး၊ သွပ်ကာအဆောက်အအ
ယောင်း(၁)လုံး(လုံခြုံရေးရဲကင်း)၊ စုစုပေါင်းအဆောက်အအုံယောင်း(၈)လုံးရှိကြောင်း၊ အဆိုပါ မြေကွက်
ယာဘက်တွင် (၅)ထပ်တိုက်(၃)လုံး၊ ဝဲဘက်တွင် ဟံသာဝတီလမ်း၊ နောက်ဘက်တွင် (၄)ထပ်တိုက
(မူးယစ်ပြတိုက်)နှင့် ရှေ့ဘက်တွင်ကျွန်းတောလမ်းရှိ၍ မြေကွက်ရှေ့လမ်းအကျယ်မှာ (၇၈')ဖြစ်ကြောင်
0.6KVဓာတ်အားလိုင်းမှာရှေ့ဘက်ခြံစည်းရိုးနယ်နိမိတ်နှင့် (၁၇')အကွာတွင်ရှိကြောင်း၊ မြေပြင်တွ
လုပ်ငန်းကြိုတင်ဆောင်ရွက်ထားခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိရပါသည်။

၃။ ပူးတွဲပါပုံစံများအရ ဆောက်လုပ်မည့်အဆောက်အဦမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

Basement+(၄)ထပ်တိုက် (Main Building)

| | | | | |
|---|---|---|---|---|
| အတိုင်းအတာ | - | (၂၂၈'×၈၉')+(၈၅'×၃၄') | | |
| အမြင့် | - | မြေညီ (၁၃')+ ၁၂'×၃+Plinth Level-၅' = ၅၄' | | |
| အသုံးပြုပုံ | - | Basement | - | ကားပါကင် |
| | | မြေညီနှင့်ပထမထပ် | - | Ball Room |
| | | ဒုတိယထပ် | - | Coffee Shop နှင့် Restaurant |
| | | တတိယထပ် | - | ဆိုင်ခန်း |

Level-2ပါ စခန်းတွဲ (၂)ထပ်တိုက် Shop အဆောက်အဦ

| | | |
|---|---|---|
| အတိုင်းအတာ | - | ၁၄၅'-၁"×၅၄' |
| အမြင့် | - | မြေညီ (Level-2ပါ ) (၉'+၈') + ပထမထပ် (၈')၊ စုစုပေါင်း (၁၇') |

စခန်းတွဲ (၂)ထပ်တိုက် Shop အဆောက်အဦ

| | | |
|---|---|---|
| အတိုင်းအတာ | - | ၁၄၅'-၁"×၅၄' |
| အမြင့် | - | မြေညီ (၉') + ပထမထပ် (၈')၊ စုစုပေါင်း (၁၇') |

၄။ အဆိုပါအဆောက်အဦများမှာ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ ဆောက်လုပ်ခွ ပုံစံများတင်ပြထားခြင်းမရှိပါ။

၅။ သို့ဖြစ်ပါ၍ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင်၊ကမာရွတ်မြို့နယ် ဟံသာဝတီလမ်း နှင့်ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် ၃၇/F၊ မြေကွက်အမှတ် ၁/အီး၊ မူးယစ်ပြတိုက်ဝင်း မြေဧရိယာ ၁၆.၂၆ဖေကေ အနက် မြေဧရိယာ ၁.၈၂၉ဖေကေ တွင် Shwe Sin La Min Co.,Ltd. Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းများကို မြန်မာနိုင် ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဦးတင်ငြိမ်းမှ ပြည်ထဲရေးဝန်ကြီ ဌာနမှတစ်ဆင့် အဆိုပြုအဆောက်အဦ(၃)လုံး ဆောက်ရန်ကိစ္စနှင့်ပတ်သက်၍ ဆောက်လုပ်မည အဆောက်အဦများသည် စီးပွားရေးသုံးအဆောက်အဦများဖြစ်သဖြင့် မီးသတ်ဦးစီးဌာန၏ ထောက်ခံချက နှင့်အတူ ကားပါကင်လုံလောက်စွာထားရှိသည့်ပုံစံများ ရေးဆွဲတင်ပြလာပါက လုပ်ထုံးလုပ်နည်းနှ အညီ စိစစ်ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား
(လှိုင်မော်ဦး၊ အတွင်းရေးမှူး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထဲရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပထရ/၂-၃(၄၇၁)/၃–ထောက်
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၂၂

NM 1960
25.3.19

သို့

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

အကြောင်းအရာ။ **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက်နှင့် ဆောင်ရွက်ရန် အကြောင်းကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁-၂၀၁၉ ရက်စွဲပါစာအမှတ် မရက- ၄/ မ-၀၄၉/ ၂၀၁၉(၀၄၆)

Mz-121
26/3

မြန်မာကုမ္ပဏီဖြစ်သော Shwe Sin La Min Co;Ltd မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့် ကျွန်းတောလမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ် 37-F၊ မြေကွက်အမှတ် ၁ အီး၊ မှူးယစ်ပြတိုက်ဝင်းရှိ မြေဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိယာ ၁.၈၂၉၆ ဧကတွင် Business Center နှင့် Shop House တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း မရမ်းကုန်းမြို့နယ်၊ ရန်ကင်း(၈) ရပ်ကွက်၊ ပါရမီလမ်း၊ ချော်တွင်းကုန်းမီးပွိုင့်နှင့် မဥ္ဇူလမ်းမီးပွိုင့်ကြား မြေတိုင်းရပ်ကွက်အမှတ်(၄၂-ခ)၊ မြေကွက်အမှတ်(၄)၊ ၂ က နှင့် ၂ ခ၊ ပါရမီရဲစက်ပြင်ဝင်းရှိ မြေဧရိယာ ၂.၆၆၆ ဧကတွင် Shopping Complex တည်ဆောက်ပြီး ဆိုင်ခန်းများငှားရမ်းခြင်း လုပ်ငန်းများအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ယင်းကော်မတီ၏ သဘောထားမှတ်ချက်အတိုင်းဆောင်ရွက်ရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် လိုက်နာဆောင်ရွက်မည့် အစီအစဉ်များအား ပူးတွဲပေးပို့အပ်ပါသည်။

ပူးတွဲ
- ရွှေစင်လမင်းကုမ္ပဏီမှတင်ပြစာ (၂) စော
- ရွှေစင်လမင်းကုမ္ပဏီအားအဆောက်အဦများ ဆောက်လုပ်ခွင့်ပြုထားကြောင်း ရန်ကုန်တိုင်းဒေသကြီးရဲတပ်ဖွဲ့မှူးရုံးမှ ထောက်ခံစာပေးပို့ခြင်း (၁) စော
- မီးသတ်ဦးစီးဌာန၏ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားစာ (၂) စော
- TRAFFIC MANAGEMENT PLAN (၂) စော
- ARCHITECTURAL DRAWING (ပါရမီ) (၁) စုံ
- ARCHITECTURAL DRAWING (မူးယစ်ပြတိုက်) (၁) စုံ

ပြည်ထောင်စုဝန်ကြီး
(ဒိုင်ထွန်းဦး၊ ခေတ္တအမြဲတမ်းအတွင်းဝ

မိတ္တူကို
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
- လက်ခံ/မျှော/စာတွဲ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရွှေစင်လမင်း ကုမ္ပဏီလီမိတက်

SHWE SIN LA MIN COMPANY LIMITED

မှ

ရန်ကုန်တိုင်းဒေသကြီး၊ကမာရွတ်မြို့နယ်၊

ဟံသာဝတီလမ်းနှင့်ကျွန်းတောလမ်းထောင့်၊မူးယစ်ပြတိုက်ဝင်း

မြေဧရိယာ (၁.၈၂၉၆) ဧကပေါ်တွင်

BOT စနစ်ဖြင့်

BUSINESS CENTER AND SHOP HOUSE

ဆောက်လုပ်မည့်

"အဆိုပြုလွှာ တင်ပြချက်"

## Shwe Sin La Min Company Limited

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

Business Center နှင့် Shop House များရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း

အညွှန်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထဲရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပထရ/၂-၃( ၈၀၈ )/ ၃-ထောက် ၄
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်းကုမ္ပဏီတို့ အကျိုးတူ ဆောင်ရွက်ခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၅-၄-၂၀၁၉ ရက်စွဲပါစာအမှတ်၊ ပထရ/၂-၃ (၆၅၁)/ ၃-ထောက် ၄

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၆-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၀၄၈၊ ၀၄၉/၂၀၁၉(၂၃၈)

၁။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့မ ရဲစခန်းမြေ ၀.၈၂၆ ကေပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းပါ အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုများနေထိုင်ရန် အဆောက်အဦ ၃ လုံး(၁၂၈)ခန်း၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ကေပေါ်တွင် အဆောက်အဦ ၁ လုံး(၆၄)ခန်း၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် အဆောက်အဦ ၁ လုံး(၄၈)ခန်း၊ စုစုပေါင်းအဆောက်အဦ ၆ လုံး(၂၄၀)ခန်းအား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E) နေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေနှင့် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေ၊ စုစုပေါင်း ၄.၅၂၉၆ ကေအား ရွှေစင်လမင်းကုမ္ပဏီနှင့် အကျိုးတူဆောက်လုပ်ရန် သဘောထားမှတ်ချက် ပေးနိုင်ရေး ရည်ညွှန်း(၁)ပါစာဖြင့် ပြည်ထဲရေးဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့အကြောင်းကြားခဲ့ပါသည်။

၂။ ဆက်လက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ထံသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ထံမှ အဆိုပါ လုပ်ငန်း ၂ ခု ဆောင်ရွက်ခွင့်အပေါ် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခွင့်ပြုချက် (သို့မဟုတ်) စီးပွားရေးရာကော်မတီသို့ တင်ပြခွင့်ပြုချက် ရယူထားသည့်အထောက်အထားများတင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားခဲ့သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပြည်ထဲရေးဝန်ကြီးဌာနသို့ ရည်ညွှန်း(၂)ပါ စာဖြင့် သိရှိနိုင်ပါရန် အကြောင်းကြားလာပါသည်။

၃။ အဆိုပါကိစ္စနှင့် ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီအစည်းအဝေး အမှတ်စဉ်(၇/၂၀၁၉)နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁၀/၂၀၁၉)တို့မှ သဘောတူခွင့်ပြုချက်များ ရရှိပြီးဖြစ်၍ လိုအပ်သလိုဆက်လက်ဆောင်ရွက် ပေးနိုင်ပါရန် ညှိနှိုင်းအပ်ပါသည်။

ပူးတွဲပါ၊ (၁၆) ရွက်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ခိုင်ထွန်းဦး၊ ခေတ္တအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

လက်ခံ/မျှော/စာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

စီးပွားရေးရာကော်မတီ

စာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့.(၅၉၉ / ၂၀၁၉)

ရက် စွဲ ၊ ၂၀၁၉ ခုနှစ် မေလ ၁၇ ရက်

သို့

နိုင်ငံတော်သမ္မတရုံး၊ စီးပွားရေးရာဌာနကြီး

အကြောင်းအရာ။ စီးပွားရေးရာကော်မတီ (၇/၂၀၁၉) ၏ အမှာစာ ကောက်နုတ်ချက် တင်ပြခြင်း

၁။ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၉) ကို ၁၅-၅-၂၀၁၉ ရက်နေ့ (ဗုဒ္ဓဟူးနေ့) တွင် နိုင်ငံတော်သမ္မတအိမ်တော် (ဘီ) ဆောင်၊ သမ္မတရုံးဝန်ကြီးဌာန အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဖြင့် တင်ပြအပ်ပါသည်။

စိုးဝင်း

(အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

နယ်စပ်ရေးရာဝန်ကြီးဌာန

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

နေပြည်တော်ကောင်စီ

ကယားပြည်နယ်အစိုးရအဖွဲ့

ကရင်ပြည်နယ်အစိုးရအဖွဲ့

ချင်းပြည်နယ်အစိုးရအဖွဲ့

ရခိုင်ပြည်နယ်အစိုးရအဖွဲ့

ရုံးလက်ခံ/မျှောစာတွဲ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | ကောက်နုတ်ချက် |
| --- | --- | --- | --- |
| ၁။ | အမှတ်(၁) နယ်ခြားစောင့်ရဲကွပ်ကဲမှုအဖွဲ့မှူးရုံး ကွပ်ကဲမှုအောက် အမှတ် (၁/၂/၃/၄/၅/၆/၇/၈) နယ်ခြားစောင့် ရဲတပ်ဖွဲ့ခွဲများအတွက် လိုအပ်သော လုံခြုံရေးပစ္စည်းများနှင့် ခြံစည်းရိုးကာရံခြင်းလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် အရေးပေါ်ရန်ပုံငွေမှ ခွင့်ပြုပေးနိုင်ပါရန်တင်ပြခြင်းကိစ္စ။<br>(ပြည်ထဲရေးဝန်ကြီးဌာန) | အရေးပေါ်ရန်ပုံငွေမှ ကျခံသုံးစွဲခွင့်<br>- ကျည်ကာအင်္ကျီ/ဦးထုပ် (၆၁၀.၈၇၆) သန်း<br>- CCTV Camera, Search Light with Solar (၂,၉၇၀.၀၈၁) သန်း<br>- အမိုးပါကွန်ကရစ်ဘန်ကာ (၁၁,၀၅၈.၇၈) သန်း<br>- သွပ်ဆူးကြိုးကာရံခြင်း (၇၀၄.၂၅) သန်း<br>- ဖိုက်ဘာ Speed Boat (၁၇၁.၇၇၁) သန်း<br>- Drone, Solar Board, Battery (၁၇၆.၅၆) သန်း<br>- Satellite Phone (၂၁၄.၀၁၆) သန်း<br>- Blades ပါခြံစည်းရိုးကာရံခြင်း (၃,၁၉၇.၅၇၁) သန်း<br>စုစုပေါင်းကျပ်(၁၉,၁၀၃.၉၀၅)သန်းကို အရေးပေါ်ရန်ပုံငွေမှ သုံးစွဲခွင့် | ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြရန် ဖြစ်ပါသည်။ (Cost Productive ဖြစ်စေရေး ဆောင်ရွက်ရန်) |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | ကောက်နုတ်ချက် |
| --- | --- | --- | --- |
| ၂။ | ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူ ဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။<br>(ပြည်ထဲရေးဝန်ကြီးဌာန) | ဆောင်ရွက်ခွင့်<br>တင်ဒါအောင်မြင်သည့်<br>ရွှေစင်လမင်း ကုမ္ပဏီမှ<br>မြေငှားစာချုပ်ချုပ်ဆိုခွင့်<br>အကျိုးတူခံစားခွင့်<br>ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်<br>(1E) မြေနေရာ ၁၆၂ဖဖကေ အနက်<br>၁.၈၂၉ဖ ကေ နှင့် ပါရမီစက်ပြင်<br>အလုပ်ရုံနေရာ ၂.၇ ကေ၊<br>စုစုပေါင်း ၄.၅၂၉ဖ ကေ<br>သက်တမ်း (၅၀+၁၀+၁၀)နှစ် | ပြည်ထောင်စုအစိုးရ အဖွဲ့အစည်းအဝေးသို့ တင်ပြရန် ဖြစ်ပါသည်။ |

လျှို့ဝှက်

ပြည်ထဲရေးဝန်ကြီးဌာန

၁။ ပထရ/၂-၃(ဖ၇၉)/၃-ထောက် ၄

ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း အကျဉ်းချုပ်။ ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရုံးပါ ၈ ထပ် အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုဝင်များ နေထိုင်ရန် ၄ ခန်းတွဲ ၈ ထပ် ၁ လုံး (၃၂ ခန်းပါ)နှင့် ၆ ခန်းတွဲ ၈ ထပ် ၂ လုံး (၉၆ ခန်းပါ)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး (၆၄ ခန်းပါ)၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် ၆ ခန်းတွဲ ၈ ထပ် ၁ လုံး (၄၈ ခန်းပါ)၊ စုစုပေါင်း အဆောက်အဦ ၆ လုံး (၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ဧကနှင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1E)နေရာ ၁.၈၂၉၆ ဧကတို့အား အသုံးပြုခွင့်ပေး၍ အကျိုးတူသက်တမ်းကုန်ဆုံးပါက မြန်မာနိုင်ငံရဲတပ်ဖွဲ့သို့ ပြန်လည်အပ်နှံသွားရမည်ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ စီးပွားရေးရာကော်မတီအစည်းအဝေး၊ အမှတ်စဉ်(၁၄/၂၀၁၇)မှ "မူအားဖြင့် သဘောတူပါသည်။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သွားရန်ဖြစ်ပါသည်" ဟု လမ်းညွှန်ထားသဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ တည်ဆောက်ရေးလုပ်ငန်းစိစစ်ရေးကော်မတီသို့ ညှိနှိုင်းဆောင်ရွက်ခဲ့ပြီးဖြစ်သည့်အပြင် မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်းကုမ္ပဏီတို့ အကြား အကျိုးတူဆောင်ရွက်မည့် စာချုပ်မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ပေးပို့၍ သဘောထားမှတ်ချက်တောင်းခံကာ သဘောထားမှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ပြီးလည်း ဖြစ်ပါသည်။

၃။ ဆုံးဖြတ်ရန်အချက်။ ဗိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရုံးပါ အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုဝင်များနေထိုင်ရန် အဆောက်အဦ ၃ လုံး (၁၂၈ ခန်း)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄ ခန်းပါ)၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် အဆောက်အဦ ၁ လုံး (၄၈ ခန်းပါ)၊ စုစုပေါင်းအဆောက်အဦ ၆ လုံး (၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ဧကနှင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1E)နေရာ ၁.၈၂၉၆ ဧကတို့အား ရွှေစင်လမင်းကုမ္ပဏီနှင့် အကျိုးတူဆောက်လုပ်ရန် သဘောတူခွင့်ပြုပေးနိုင်ရေး နိုင်ငံတော်သမ္မတ၊ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန်လိုအပ်ခြင်း ရှိ/မရှိနှင့် ကော်မတီစုပေါင်းအဆုံးအဖြတ်ဖြင့် ပေါင်းစပ်ညှိနှိုင်းဆောင်ရွက်ပေးရန် လိုအပ်ခြင်း ရှိ/မရှိ။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား ၁

(အေးကိုကို၊ လက်ထောက်အတွင်းဝန်)

လျှို့ဝှက်

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထဲရေးဝန်ကြီးဌာန

စာအမှတ်၊ ပထရ/၂-၃(၆၃၉)/၃-ထောက် ၄

ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၂ ရက်

အကြောင်းအရာ။ **ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း**

၁။ **ဆွေးနွေးလိုသည့်အဓိကအချက်များ**

(က) ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းသည် ဗိုလ်တထောင်မြို့နယ်၊ အမှတ်(၄)ရပ်ကွက်၊ ဗိုလ်တထောင်ဘုရားလမ်း၊ အမှတ်(၁၂)၊ မြေတိုင်းအကွက် အမှတ်(၁၀-၈၂)၊ ဗိုလ်တထောင်ဘုရားလမ်းနှင့် ကုန်သည်လမ်းထောင့်ရှိ အလျား ၂၀၅ ပေ၊ အနံ ၁၇၈ ပေ၊ မြေဧရိယာ ၀.၈၂၆ ဧကတွင် တည်ရှိပြီး ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ ရန်ကုန်မြို့၏ ၅-၁၁-၁၉၉၆ ရက်စွဲပါအမိန့်ကြော်ငြာစာဖြင့် လွှဲပြောင်းပေးခဲ့သောမြေဖြစ်ပါသည်။

(ခ) ဗိုလ်တထောင်မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းဝင်းအတွင်းတွင် ၁၈၉၂ ခုနှစ်တွင် ဆောက်လုပ်ခဲ့သော မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး ၂ ထပ် ၁ လုံး၊ စခန်းရုံး ၂ ထပ် ၁ လုံး၊ လုံးချင်း ၂ ထပ် ၂ လုံး၊ လုံးချင်း ၁ ထပ် ၂ လုံး၊ ၂ ခန်းတွဲ ၁ ထပ် ၁ လုံး၊ ၂ ခန်းတွဲ ၂ ထပ် ၁ လုံး၊ ၃ ခန်းတွဲ ၁ ထပ် ၁ လုံး၊ ၄ ခန်းတွဲ ၁ ထပ် ၁ လုံး၊ ၈ ခန်းတွဲ ၂ ထပ် ၁ လုံး၊ ၁၂ ခန်းတွဲ ၂ ထပ် ၁ လုံး၊ စုစုပေါင်းအဆောက်အဦ ၁၂ လုံးရှိပြီး သက်တမ်းအားဖြင့် ၁၂၅ နှစ်ကျော် ကြာမြင့်သည့် အဆောက်အအုံများဖြစ်ကာ အဆိုပါအဆောက်အဦများတွင် အိမ်ထောင်သည် တပ်ဖွဲ့ဝင်အရာရှိ ၉ ဦးနှင့် အခြားအဆင့် ၃၅ ဦး၊ လူပျို/အပျို အရာရှိတပ်ဖွဲ့ဝင် ၆ ဦး၊ အခြားအဆင့်တပ်ဖွဲ့ဝင် ၂၄ ဦး၊ ပေါင်း တပ်ဖွဲ့ဝင် ၇၄ ဦး၊ မှီခိုသူမိသားစု ၉၃ ဦး၊ စုစုပေါင်း ၁၆၇ ဦး နေထိုင်လျက်ရှိပါသည်။

(ဂ) ဗိုလ်တထောင်မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းနှင့် မိသားစုများနေထိုင်သော လိုင်းခန်းအဆောက်အအုံများအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာ(အဆောက်အအုံ)၏ ၂၁-၃-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၁၂၄၅/ပြင်ပ/စည်ပင်-

ယာ/အုံ (စီမံချက်)နှင့် ၁၄-၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ဖစဖ/ပြင် ပ/စည်ပင်-ယာ/အုံ(စီမံချက်)ဖြင့် အန္တရာယ်ရှိအဆောက်အအုံများ (DB)အဖြစ် သတ်မှတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ (က)**

(ဃ) ဗိုလ်တထောင်မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရှိ ရုံးဌာနများ/မိသားစုများ၏ ရေရှည်တာဝန်ဆောင်ရွက်နိုင်ရေးနှင့် အန္တရာယ်မရှိစေရေး မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရုံးပါ ၈ ထပ် အဆောက်အဦ ၁ လုံး၊ ၄ ခန်းတွဲ ၈ ထပ် ၁ လုံးနှင့် ၁၀ ခန်းတွဲ ၈ ထပ် ၂ လုံး၊ ပေါင်းအဆောက်အဦ ၄ လုံး၊ စုစုပေါင်းအခန်းအရေအတွက် ၂၄၀ ခန်းအတွက် မြန်မာတိုင်းရင်းသားကုမ္ပဏီများဖြင့် တင်ဒါခေါ်ယူဆောင်ရွက်စေပြီး အကျိုးတူခံစားခွင့်အနေဖြင့် လမ်းမတော်မြို့နယ်၊ အမှတ်(3E)၊ ဝါးတန်းလမ်း မြေ ၀.၂၄၄ ဧကနှင့် မရမ်းကုန်းမြို့နယ်၊ ပါရမီစက်ပြင်ဝင်းမြေ ၂.၇ ဧက၊ စုစုပေါင်း ၂.၉၄၄ ဧကအား ပထမအကြိမ်သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ်သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ်သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ်ချုပ်ဆို၍ အသုံးပြုခွင့် ဆောင်ရွက်နိုင်ရေး စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ရာ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် အဆောက်အဦများ အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စအား မြန်မာတိုင်းရင်းသားကုမ္ပဏီများဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခွင့်၊ အကျိုးတူဆောင်ရွက်ခံစားခွင့်ကို **"မူအားဖြင့် သဘောတူပါသည်။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သွားရန်ဖြစ်ပါသည်"**ဟု စီးပွားရေးရာကော်မတီ (၁၄/၂၀၁၇)၏ အမှာစာကောက်နုတ်ချက်အား စီးပွားရေးရာကော်မတီမှ အကြောင်းကြားလာခဲ့ပါသည်။ **နောက်ဆက်တွဲ(ခ)**

( င ) ထိုသို့အကြောင်းကြားလာပါသဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ဆက်လက်ညှိနှိုင်းဆောင်ရွက်ခဲ့ပြီး ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အကျိုးတူဆောက်လုပ်မည့် အဆောက်အဦ ၄ လုံး၏ Structure နှင့် ခန့်မှန်းကုန်ကျစရိတ် (BQ)တို့အား ဗိသုကာပုံစံပိုင်းဆိုင်ရာ တွေ့ရှိချက်များနှင့် အကြံပြုချက်များ ပြန်လည်ပေးပို့ခဲ့ရာ ၎င်းပြင်ဆင်သည့်အတိုင်း ဆောင်ရွက်ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)**

( စ ) မြန်မာနိုင်ငံရဲတပ်ဖွဲ့မှ အကျိုးတူဆောက်လုပ်မည့် အဆောက်အဦများနှင့်ပတ်သက်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ဒါခေါ်ယူနိုင်ရေးအတွက် တင်ဒါခေါ်ယူရေးအဖွဲ့ ဖွဲ့စည်းတာဝန်ပေးအပ်ခြင်း၊ ဗိုလ်တထောင်ရဲစခန်းမြေပေါ်ရှိ တပ်ဖွဲ့ဝင်များ

နေထိုင်သည့် နေအိမ်အဆောက်အဦများအား လေလံတင်ဖျက်သိမ်းနိုင်ရေး အတွက် လေလံဖျက်သိမ်းရောင်းချရေးအဖွဲ့ ဖွဲ့စည်းခြင်းတို့ကို ဆောင်ရွက်ခဲ့ပြီး ၁၅-၂-၂၀၁၈ ရက်နေ့ ၁၀၀၀ နာရီအချိန်တွင် တင်ဒါခေါ်ယူခဲ့ရာ လာရောက်စုံစမ်း မေးမြန်းသည့် ကုမ္ပဏီ ၁၇ ခုအား တင်ဒါခေါ်ယူရေးအဖွဲ့မှ စိစစ်ဆောင်ရွက်ခြင်း၊ ထိုသို့စိစစ်ဆောင်ရွက်သည့် ကုမ္ပဏီ ၁၇ ခုအနက် အကျိုးတူဆောင်ရွက်ရာတွင် လိုက်နာရမည့် စည်းကမ်းချက်များနှင့်ကိုက်ညီပြီး Structure Drawing ဖြင့် တင်ပြ နိုင်ခဲ့သော ရွှေစင်လမင်းကုမ္ပဏီမှ တင်ဒါအောင်မြင်ခဲ့ပါသည်။ **နောက်ဆက်တွဲ(ဃ)**

( ဆ ) မိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် အကျိုးတူအနေဖြင့် တပ်ဖွဲ့ပိုင် အဆောက်အဦများ ဆောက်လုပ်ပေးပြီး ခံစားခွင့်အနေဖြင့် ရွှေစင်လမင်း ကုမ္ပဏီအား အသုံးပြုခွင့်ပေးမည့်မြေနေရာ ၂ နေရာအနက် လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်း၊ အကွက်အမှတ်(3E)၊ မြေဧရိယာ ၀.၂၄၄ ဧကသည် မြေပြင် အနေအထားအရ ကျဉ်းမြောင်း၍ အဆောက်အဦဆောက်လုပ်ရန် အခက်အခဲရှိပြီး ကုမ္ပဏီမှ တပ်ဖွဲ့အတွက်ဆောင်ရွက်ပေးသည့် ရင်းနှီးမြှုပ်နှံမှု များပြားသည့်အတွက် ၄င်းမြေနေရာအစား ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ် (1E)၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့၊ မှူးယစ်ပြတိုက်ဝင်း မြေဧရိယာ ၁၆.၂၆၆ ဧကအနက် ၁.၈၂၉၆ ဧကအား အသုံးပြုဆောင်ရွက်လိုကြောင်း တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ပြန်လည်တင်ပြခဲ့မှုအပေါ် ပြည်ထဲရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီမှ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၈)ဖြင့် ဆောင်ရွက်သွား ရန်နှင့် မိမိတို့ဘက်မှ နစ်နာမှုမရှိစေဘဲ လုပ်ထုံးလုပ်နည်းနှင့်အညီ သက်ဆိုင်ရာ ကုမ္ပဏီနှင့် ညှိနှိုင်းဆောင်ရွက်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ(င)**

( ဇ ) မိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းရုံးပါ ၈ ထပ် အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုဝင်များ နေထိုင်ရန် ၄ ခန်းတွဲ ၈ ထပ် ၁ လုံး (၃၂ ခန်းပါ)နှင့် ၆ ခန်းတွဲ ၈ ထပ် ၂ လုံး (၉၆ ခန်းပါ)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး (၆၄ ခန်းပါ)၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာ မြေပေါ်တွင် ၆ ခန်းတွဲ ၈ ထပ် ၁ လုံး (၄၈ ခန်းပါ)၊ စုစုပေါင်း အဆောက်အဦ ၆ လုံး (၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောင်ရွက်ပေးသွား

မည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေနှင့် မူးယစ်ပြတိုက်ဝင်းမြေနေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေအား အသုံးပြုခွင့် ပေးရမည်ဖြစ်ပြီး အကျိုးတူသက်တမ်းကုန်ဆုံးပါက မြန်မာနိုင်ငံရဲတပ်ဖွဲ့သို့ ပြန်လည် အပ်နှံသွားရမည်ဖြစ်ကြောင်း ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်းကုမ္ပဏီတို့အကြား အကျိုးတူဆောင်ရွက်သည့် စာချုပ် မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ပေးပို့၍ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(စ)**

၂။ **ဆွေးနွေးသည့်အကြောင်းအရာအပေါ် ဌာန၏ သုံးသပ်တင်ပြချက်**

(က) **ဝန်ကြီးဌာန၏ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း ရှုထောင့်အမြင် သုံးသပ်ချက်။** ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မ ရဲစခန်းမြေ ၀.၈၂၆ ကေပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းရုံးပါ ၈ ထပ် အဆောက်အဦ ၁ လုံး၊ ၄ ခန်းတွဲ ၈ ထပ် ၁ လုံးနှင့် ၆ ခန်းတွဲ ၈ ထပ် ၂ လုံး၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ကေပေါ်တွင် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် ၆ ခန်းတွဲ ၈ ထပ် ၁ လုံး၊ စုစုပေါင်းအဆောက်အဦ ၆ လုံးအား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်း ကုမ္ပဏီမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် ပါရမီ စက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေနှင့် မူးယစ်ပြတိုက်ဝင်း မြေနေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေအား ပထမအကြိမ် သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ်သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ်သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ် ချုပ်ဆို၍ အသုံးပြုခွင့်ပေးရမည်ဖြစ်ပါသည်။

(ခ) **နိုင်ငံတကာဥပဒေစည်းမျဉ်း၊ လုပ်ထုံးလုပ်နည်း ရှုထောင့်အမြင်။** ဤကဲ့သို့ ဗိုလ်တထောင်မြို့နယ်ရဲတပ်ဖွဲ့စခန်း အဆောက်အဦများအား အကျိုးတူ ဆောက်လုပ်ခြင်းအားဖြင့် ရုံးဌာနများ/မိသားစုများ ရေရှည်တာဝန်ဆောင်ရွက်နိုင်ခြင်း၊ အန္တရာယ်မရှိစေခြင်းနှင့် နိုင်ငံတော်နှင့်ပြည်သူများ၏ အသက်အိုးအိမ်စည်းစိမ် အေးချမ်းသာယာမည်ဖြစ်ပြီး ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး လုပ်ငန်းများအား ပိုမိုဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

(ဂ) **ပြည်သူလူထုအမြင်(သတင်း)။** ဖော်ပြရန်မရှိပါ။

၃။ **အခြားဆက်စပ်ဌာနအဖွဲ့အစည်းနှင့် ဒေသများရှုထောင့်မှ ပေါင်းစပ်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်ချက်များ။** တင်ပြရန်မရှိပါ။

၄။ **ဆုံးဖြတ်ရန်အချက်**

(က) နိုင်ငံတော်သမ္မတ၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့တင်ပြရန် လိုအပ်ခြင်း ရှိ မရှိ။

( ခ ) ကော်မတီ၏ စုပေါင်းအဆုံးအဖြတ်ဖြင့် ပေါင်းစပ်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်ခြင်း ရှိ မရှိ။

ဒုတိယဗိုလ်ချုပ်ကြီး ကျော်ဆွေ
ပြည်ထောင်စုဝန်ကြီး

**စီးပွားရေးရာကော်မတီ**

# ပြည်ထောင်စုဝန်ကြီး၏ တာဝန်ခံအတည်ပြုချက်

၁။ တင်ပြစာနှင့်စပ်လျဉ်း၍

(က) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တောင်းခံဆောင်ရွက်ရန် လိုအပ်ခြင်း မရှိပါ။

(ခ) ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်များနှင့် ကိုက်ညီမှု ရှိ မရှိ။ ။ ရှိ

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ သဘောထား လို မလို။ ။ မလို

(ဃ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ရှိ မရှိ ထင်မြင်ချက်။ ။ မရှိ

(င) လူမှုစီးပွားရေးပတ်ဝန်းကျင် ထိခိုက်မှု ရှိ မရှိ ထင်မြင်ချက်။ ။ မရှိ

(စ) ကျန်းမာရေးရှုထောင့်မှ ထိခိုက်မှု ရှိ မရှိ ထင်မြင်ချက်။ ။ မရှိ

(ဆ) အခြားသီးခြား လွတ်လပ်သောအဖွဲ့အစည်းများနှင့် ပေါင်းစပ်ညှိနှိုင်းရန် လို မလို ထင်မြင်ချက်။ ။ မလို

၂။ **အထွေထွေမှတ်ချက်။** ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဒုတိယဗိုလ်ချုပ်ကြီး ကျော်ဆွေ
ပြည်ထောင်စုဝန်ကြီး

ရက် ၁၆ ၊ ၂၀၁၉ ခုနှစ်၊ မေလ ရက်
နေ ရာ ၊ ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး



လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စီးပွားရေးရာဌာနကြီး

စာအမှတ်၊ ၁ (၁/၈၈၇) /၇/သမ္မတရုံး

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေလ ၂၁ ရက်

သို့ ၂၂

၂၁.၅ ပြည်ထဲရေးဝန်ကြီးဌာန

အကြောင်းအရာ။ ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်၍ မြေငှားစာချုပ်ချုပ်ဆိုခွင့်ကိစ္စ

ရည် ညွှန်း ချက်။ (၁) ယင်း၏ ၂-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ ပထရ/၂-၃(ဖ၇၉)/၃-ထောက် ၄

(၂) စီးပွားရေးရာကော်မတီ၏ ၁၇-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့ ( ၄၉၇ /၂၀၁၉ )

ဌာနပိုင်မြေပေါ်တွင် တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီက အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုရန် စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၉)သို့ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြမှုနှင့်စပ်လျဉ်း၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ဇရတ်ဆင်း

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စီးပွားရေးရာကော်မတီ

နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန

ပြည်ထောင်စုရှေ့နေချုပ်ရုံး



ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၆ / ၁၆၈ / အဖရ (၁၀/ ၂၀၁၉) ။
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ၊ ဇွန်လ ၄ ရက်။

အ မှာ စာ

အကြောင်းအရာ။ ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း။

၁။ ၂၀၁၉ ခုနှစ်၊ မေလ ၂၃ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၉) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
ပြည်ထဲရေးဝန်ကြီးဌာန

၆။ ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း။

ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၀၁၉ ခုနှစ်၊ မေလ ၂၀ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ပထရ / ၂-၃ (၇၇၇) / ၃-ထောက် ၄။

ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မရဲစခန်း မြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရုံးပါ အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုဝင်များနေထိုင်ရန် အဆောက်အဦ ၃ လုံး (၁၂၈) ခန်း၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄)ခန်း၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် အဆောက်အဦ ၁လုံး (၄၈)ခန်း ၊ စုစုပေါင်းအဆောက်အဦ ၆ လုံး (၂၄၀)ခန်းအား တင်ဒါအောင်မြင် သည့် ရွှေစင်လမင်းကုမ္ပဏီနှင့်မြေငှားစာချုပ်ချုပ်ဆို၍ အကျိုးတူခံစားခွင့်အနေဖြင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ် (1E) နေရာ ၁၆.၂၆၆ ဧကအနက် ၁.၈၂၉၆ ဧကနှင့် ပါရမီစက်ပြင် အလုပ်ရုံနေရာ ၂.၇ ဧက၊ စုစုပေါင်း ၄.၅၂၉၆ ဧကအား ပထမအကြိမ် သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ်သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ် သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ်ချုပ်ဆို၍ အသုံးပြုခွင့်ပေးရန် သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ပြည်ထဲရေး။

ထိပ်တန်းလျှို့ဝှက်

လျှို့ဝှက်



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပြည်ထဲရေးဝန်ကြီးဌာန**

စာအမှတ်၊ ပထရ/၂-၃(ဂျူရှ)/၃—ထောက် ၄
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၂၁ ရက်

<u>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ <u>ဌာနပိုင်မြေပေါ်တွင် အဆောက်အဦများ အကျိုးတူဆောက်လုပ်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း</u>

၁။ ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ကေပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းရုံးပါ ၈ ထပ်အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့်မိသားစုများ နေထိုင်ရန် ၄ ခန်းတွဲ ၈ ထပ် ၁ လုံး( ၃၂ ခန်း)နှင့် ၆ ခန်းတွဲ ၈ ထပ် ၂ လုံး (၉၆ ခန်း)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ကေပေါ်တွင် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး(၆၄ ခန်း)၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် ၆ ခန်းတွဲ ၈ ထပ် ၁ လုံး(၄၈ ခန်း)၊ စုစုပေါင်းအဆောက်အဦ ၆ လုံး( ၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး အကျိုးတူခံစားခွင့်အနေဖြင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေနှင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E)နေရာ ၁.၈၂၉၆ ကေတို့အား အသုံးပြုခွင့်ပေး၍ အကျိုးတူသက်တမ်းကုန်ဆုံးပါက မြန်မာနိုင်ငံရဲတပ်ဖွဲ့သို့ ပြန်လည်အပ်နှံသွားရမည် ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စီးပွားရေးရာကော်မတီအစည်းအဝေး၊ အမှတ်စဉ်(၁၄/၂၀၁၇)မှ "မူအားဖြင့် သဘောတူပါသည်။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သွားရန်ဖြစ်ပါသည်"ဟု လမ်းညွှန်ထားပါသဖြင့် တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီနှင့် မြေငှားစာချုပ် ချုပ်ဆို၍ အကျိုးတူခံစားခွင့်အနေဖြင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E)နေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေနှင့် ပါရမီစက်ပြင် အလုပ်ရုံနေရာ ၂.၇ ကေ၊ စုစုပေါင်း ၄.၅၂၉၆ ကေအား ပထမအကြိမ်သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ်သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ်သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ် ချုပ်ဆို၍ အသုံးပြုခွင့်ပေးနိုင်ရေး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ တည်ဆောက်ရေး လုပ်ငန်းစိစစ်ရေးကော်မတီသို့ ညှိနှိုင်းဆောင်ရွက်ခဲ့ပြီးဖြစ်သည့်အပြင် မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်း ကုမ္ပဏီတို့အကြား အကျိုးတူဆောင်ရွက်မည့် စာချုပ်မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ပေးပို့၍ သဘောထားမှတ်ချက်တောင်းခံကာ သဘောထားမှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ပါသည်။ <u>နောက်ဆက်တွဲ(က)(ခ)(ဂ) (ဃ)</u>

၃။ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် တပ်ဖွဲ့ဝင်နှင့်မိသားစုများနေထိုင်ရန် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး (၆၄ ခန်း) ဆောက်လုပ်ခွင့်ပြုနိုင်ရန်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့တင်ပြခဲ့ရာ ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။ <u>နောက်ဆက်တွဲ (င)</u>

၄။ တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ အကျိုးတူခံစားခွင့်အနေဖြင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေနှင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E)နေရာ ၁.၈၂၉၆ ကေတို့တွင် Business Center နှင့် Shop House တည်ဆောက်ပြီးဆိုင်ခန်းများ ငှားရမ်းခြင်းလုပ်ငန်းများအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ပါသည်။ <u>နောက်ဆက်တွဲ (စ)(ဆ)</u>

၅။ ပြည်ထဲရေးဝန်ကြီးဌာနမှ အဆိုပါကိစ္စအား သဘောတူခွင့်ပြုပေးနိုင်ရေး စီးပွားရေးရာကော်မတီသို့ အမှာစာတင်ပြခဲ့ရာ စီးပွားရေးရာကော်မတီအစည်းအဝေး အမှတ်စဉ် ( ၇/၂၀၁၉)အရ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန်နှင့် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားစာ ရရှိပြီးဖြစ်ပါသည်။ <u>နောက်ဆက်တွဲ(ဇ) (ဈ)</u>

၆။ **ဆုံးဖြတ်ရန်အချက်။** ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ကေပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းရုံးပါ အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့်မိသားစုဝင်များနေထိုင်ရန် အဆောက်အဦ ၃ လုံး(၁၂၈ ခန်း)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ကေပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄ ခန်း)၊ အလုံမြို့နယ်၊ ဝိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် အဆောက်အဦ ၁ လုံး (၄၈ ခန်း)၊ စုစုပေါင်းအဆောက်အဦ ၆ လုံး(၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီနှင့် မြေငှားစာချုပ်ချုပ်ဆို၍ အကျိုးတူခံစားခွင့်အနေဖြင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E)နေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေနှင့် ပါရမီစက်ပြင် အလုပ်ရုံနေရာ ၂.၇ ကေ၊ စုစုပေါင်း ၄.၅၂၉၆ ကေအား ပထမအကြိမ်သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ် သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ် သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ် ချုပ်ဆို၍ အသုံးပြုခွင့်ပေးနိုင်ရေး ကိစ္စအပေါ် သဘောတူ/မတူ။

၇။ **ပြည်ထဲရေးဝန်ကြီးဌာန၏ထောက်ခံချက်။** ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ ဗိုလ်တထောင်မြို့မရဲစခန်း မြေ ဝ.၈၂၆ ကေပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်းရုံးပါ အဆောက်အဦ ၁ လုံး၊ တပ်ဖွဲ့ဝင်နှင့် မိသားစုဝင်များနေထိုင်ရန် အဆောက်အဦ ၃ လုံး(၁၂၈ ခန်း)၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ဝ.၂၄၄ ကေပေါ်တွင် အဆောက်အဦ ၁ လုံး (၆၄ ခန်း)၊ အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာမြေပေါ်တွင် အဆောက်အဦ ၁ လုံး( ၄၈ ခန်း)၊ စုစုပေါင်းအဆောက်အဦ ၆ လုံး (၂၄၀ ခန်း)အား တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီနှင့် မြေငှားစာချုပ်ချုပ်ဆို၍ အကျိုးတူခံစားခွင့်အနေဖြင့် ကမာရွတ်မြို့နယ်၊ မြေကွက်အမှတ်(1 E)နေရာ ၁၆.၂၆၆ ကေအနက် ၁.၈၂၉၆ ကေနှင့် ပါရမီစက်ပြင်အလုပ်ရုံနေရာ ၂.၇ ကေ၊ စုစုပေါင်း ၄.၅၂၉၆ ကေအား ပထမအကြိမ်သက်တမ်း ၅၀ နှစ်၊ ဒုတိယအကြိမ်သက်တမ်း ၁၀ နှစ်၊ တတိယအကြိမ်သက်တမ်း ၁၀ နှစ်ဖြင့် မြေငှားစာချုပ် ချုပ်ဆို၍ အသုံးပြုခွင့်ပေးနိုင်ရေးကိစ္စအပေါ် ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဒုတိယဗိုလ်ချုပ်ကြီး ကျော်ဆွေ
ပြည်ထောင်စုဝန်ကြီး

<u>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့</u>



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထဲရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ပထရ/၂-၃(၄၇၂)/ ၃-ထောက် ၄

ရက်  စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Shwe Sin La Min Co;Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်နှင့် ကမာရွတ်မြို့နယ်တို့တွင် Shopping Complex၊ Business Center နှင့် Shop House တည်ဆောက်ပြီး ဆိုင်ခန်းငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်များအပေါ် ကုမ္ပဏီ၏လိုအပ်ချက်များ ပြန်လည်ပြင်ဆင်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၀၄၈၊ မ-၀၄၉/၂၀၁၉(၀၂၃)

၁။ Shwe Sin La Min Co;Ltd မှ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်နှင့် ကမာရွတ်မြို့နယ်တို့ရှိမြေများအား BOT စနစ်ဖြင့်ငှားရမ်း၍ လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂/၂၀၁၉ အစည်းအဝေးသို့တင်ပြခဲ့ရာ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ်ဆောင်ရွက်ရန် လက်ခံနိုင်ပါသဖြင့် ကုမ္ပဏီသို့ အောက်ပါလိုအပ်ချက်များအား ပြင်ဆင်ပြီးပြန်လည်တင်ပြရန်နှင့် ဝန်ဆောင်စရိတ်အား ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ ပေးသွင်းသွားရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှစ်ခုအသုံးပြုရန်အတွက် တင်ဒါအောင်မြင်သည့် အထောက်အထားတင်ပြပေးရန်။

(ခ) Traffic Management Plan တင်ပြပေးရန်။

(ဂ) BOT စာချုပ်အပိုဒ် ၆(ဂ)အား ပြင်ဆင်တင်ပြရန်။

(ဃ) ဌာနနှင့်ကုမ္ပဏီတို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)တင်ပြပေးရန်။

(င) ရင်းနှီးမြှုပ်နှံမှုတွင် ဌာနအတွက်ကုမ္ပဏီမှ ဆောက်လုပ်ပေးထားပြီးဖြစ်သည့် အဆောက်အဦများ၏ ၈၀% ပြီးစီးမှုအတွက် ထည့်ဝင်ပြီးရင်းနှီးမြှုပ်နှံမှုပမာဏနှင့် ကျန်ဆောက်လုပ်မည့် အဆောက်အဦများ၏ ရင်းနှီးမြှုပ်နှံမှုပမာဏ ခွဲခြားဖော်ပြပေးရန်။

(စ) BOT စာချုပ်မူကြမ်းအပိုဒ် ၂(ခ)တွင် ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဌာနပိုင် မြေနေရာ ၂ ခု၏ တည်နေရာနှင့်မြေရေိယာအကျယ်အဝန်း ပြည့်စုံစွာဖော်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါလိုအပ်ချက်များအား ကုမ္ပဏီမှ ပြင်ဆင်ဆောင်ရွက်ပြီးစီးမှုအား သိရှိနိုင်ပါရန် ပြန်လည်ပေးပို့အပ်ပါသည်။

**ပူးတွဲ** - ၁၈ ရွက်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခိုင်ထွန်းဦး၊ ခေတ္တအမြဲတမ်းအတွင်းဝန် )

**မိတ္တူကို**

လက်ခံ/မျှော/စာတွဲ

မှတ်ပုံတင်ကြေးနန်းစာပုံစံအစား



၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ

(ပ) ရကရ

ရက် နေ့ / အ ချိန်

(လ) နရခ(ရဲထောက်ပံ့ရေးဌာနကြီး)

---

၅၅ ထောက် ၃။ ယ။

(၁) ၁၈ ဖေ ၁၅ ရက်နေ့ ၁၀၀၀ အချိန်တွင် ရကရ၊ အစည်းအဝေးခန်းမ(၁)၌ တင်ဒါခေါ်ယူရေးအဖွဲ့ ဥက္ကဋ္ဌ ရကရမှူး ရဲမှူးချုပ် ဝင်းနိုင်၊ နရခမှ ညွှန်ကြားရေးမှူး(ထောက်) ရဲမှူးကြီး မိုးသန်းအောင်၊ ရကဖ(၂)မှ ဒုတိယကွပ်ကဲရေးမှူး ရဲမှူးကြီး သန်းဝင်း၊ မီးသတ်ဦးစီးဌာနမှ တိုင်းဒေသကြီးဦးစီးမှူး ဦးမျိုးဝင်း၊ ရကရမှူးရုံးမှ ဦးစီးအရာရှိ(ပထမတန်း)ဒုတိယရဲမှူးကြီး မြင့်ထွေးတို့ဖြင့် ခရရ(ရွှေ)၊ မိုလ်တထောင်မြို့နယ်၊အမှတ်(၄)ရပ်ကွက်၊မိုလ်တထောင်ဘုရားလမ်း၊မြေတိုင်းရပ်ကွက်အမှတ်(၁၀–ဈ)၊ ဗိုလ်တထောင်မြို့မရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ရဲစခန်းအချပ်ပါ ၈ ထပ် အဆောက်အဦ(၁)လုံး အပါအဝင် တပ၀နေအိမ်များ ဆောက်လုပ်ရန်အတွက် အကျိုးတူဆောင်ရွက်မည့် ကိစ္စနှင့်ပတ်သက်၍ တင်ဒါခေါ်ယူခဲ့ရာတွင် လာရောက်စုံစမ်းမေးမြန်းသည့် ကုမ္ပဏီ(၁၇)ခုအား စိစစ်ခဲ့။

(၂) ၄င်းကုမ္ပဏီများအနက်မှ ဦးတင်ညိမ်း(ဘ)ဦးဟန်တင်၊ ဥက္ကဋ္ဌ(ရွှေစင်လမင်းကုမ္ပဏီ)၊ အခန်း(၈၀၈)၊ ဓမ္မစေတီလမ်း၊ Yuzana Bussiness Tower တွင်နေထိုင်သူမှ ဗိုလ်တထောင်မြို့နယ်၊ (၄)ရပ်ကွက်၊ ဗိုလ်တထောင်ဘုရားလမ်း အမှတ်(၁၁၂)၊ ဗိုလ်တထောင်ရဲစခန်းမြေ ၀.၈၂၆ ဧကပေါ်တွင် မနယရုံး/ရဲစခန်းပါ ၈ ထပ်အဆောက်အဦ(၁)လုံးအပါအဝင် တပ၀နေအိမ်များ၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းရှိမြေနေရာနှင့် အလုံမြို့နယ်၊ ဝိတောက်မြိုင်ရဲရိပ်သာရှိ ယခင်ရေခဲစက် မြေနေရာပေါ်တွင် တပ၀နေအိမ်များ ဆောက်လုပ်ရန်အတွက် အကျိုးတူဆောင်ရွက်ရာတွင် လိုက်နာရမည့်စည်းကမ်းချက်များနှင့် ကိုက်ညီပြီး Structure Drawing ဖြင့် တင်ပြနိုင်ပါသဖြင့် တင်ဒါအောင်မြင်ခဲ့ပါကြောင်းနှင့် ၄င်းကုမ္ပဏီ၏ Profile အား ဆက်လက်တင်ပြသွားမည်ဖြစ်ပါကြောင်း သိရှိညွှန်ကြားမှုပြုနိုင်ပါရန် တင်ပြအပ်–/

---

သင့်ရာနည်းဖြင့်ပို့

ဦးစားပေးအဆင့်အတန်း

—

ဦးစီးအရာရှိ(ပထမတန်း)

D'AAT.A.A.T-103




## ရွှေစင်လမင်းကုမ္ပဏီမှ မြန်မာနိုင်ငံရဲတပ်ဖွဲ့အတွက် အဆောက်ဦး(၆)လုံးဆောက်လုပ်ပေးမည့် ခန့်မှန်းကုန်ကျစရိတ်

အဆောက်ဦး(၆)လုံးတည်ဆောက်ရင်းနှီးမည့်ပမာဏ

| | | | စကွဲယား/ပေ | ကျသင့်တန်ဖိုး |
|---|---|---|---|---|
| ၁။ | ဗိုလ်တထောင်မြို့နယ်၊ မြို့မရဲစခန်း၊ | (၆)ခန်းတွဲ၊(၈)ထပ်(၂)လုံး | 78,064 | 3,891,805,747 |
| | | (၄)ခန်းတွဲ၊(၈)ထပ်(၁)လုံး | 37,440 | 1,866,535,244 |
| | | ရဲစခန်း၊(၈)ထပ်(၁)လုံး | 19,200 | 957,197,560 |
| ၂။ | လမ်းမတော်မြို့နယ်၊ ဝါတန်းလမ်း၊ | (၈)ခန်းတွဲ၊(၈)ထပ်(၁)လုံး | 50,184 | 2,501,875,123 |
| ၃။ | အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာ၊ | (၆)ခန်းတွဲ၊(၈)ထပ်(၁)လုံး | 39,032 | 1,945,902,875 |
| | | | **စုစုပေါင်းရင်းနှီးမြှုပ်နှံမည့်ပမာဏ** | **11,163,316,549** |

တည်ဆောက်ပေးထားပြီးဖြစ်သည့် အဆောက်ဦး **( ၈၀% )**

| | |
|---|---|
| လမ်းမတော်မြို့နယ်၊ဝါးတန်းလမ်း၊ | (2,001,500,098) |
| အလုံမြို့နယ်၊ ပိတောက်မြိုင်ရဲရိပ်သာ၊ | (1,556,722,300) |
| **ဆောက်လုပ်ရန်ကျန်ရှိမည့် ရင်းနှီးမြှုပ်နှံမည့်ပမာဏ** | **7,605,094,151** |

Final



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၈ /နပတ( ၂၆၃ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၄ ရက်

သို့

ပြည်ထဲရေးဝန်ကြီးဌာန

အကြောင်းအရာ။ အကျိုးတူဆောင်ရွက်ခြင်းကိစ္စအား စာချုပ်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း) အပေါ် ပြန်လည်ပြင်ဆင်သည့်ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြား ပေးပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ပြည်ထဲရေးဝန်ကြီးဌာန၏ ၃၁-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ ပထရ/ ၂-၃ (၁၈၄)/ ၃-ထောက် ၄

(၂) ပြည်ထဲရေးဝန်ကြီးဌာန၏ ၁၈-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ပထရ/ ၂-၃ (၈၃၈)/ ၃-ထောက် ၄

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၃-၅-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၂(၅) ၄-၁၆/နပတ(၄၉၅)

(၄) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၅-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ပထရ/ ၂-၃ (၅၈၄)/ ၃-ထောက် ၄

၁။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်းကုမ္ပဏီတို့အကြား ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်(မူကြမ်း)တွင် ပါဝင်သည့်အချက်များအနက်မှ ပြန်လည်ပြင်ဆင်ရန်လိုအပ်သည့်အချက်များအား ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါ စာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ညှိနှိုင်းလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော သဘောတူစာချုပ်(မူကြမ်း)သည် ယခင်က သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၄)ပါစာဖြင့် ပေးပို့လာသဖြင့် ဤရုံးမှ ရည်ညွှန်းချက်(၃)ပါ စာဖြင့် သဘောထားမှတ်ချက်ပြန်ကြားခဲ့ရာ ပြည်ထဲရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါ သဘောထားမှတ်ချက်အတိုင်း ပြင်ဆင်ဖြည့်စွက်ထားသည့်စာချုပ်(မူကြမ်း) (၁)စုံအား ရည်ညွှန်းချက်(၂)ပါစာဖြင့် ပေးပို့လာသော်လည်း သဘောထားမှတ်ချက်ထပ်မံတောင်းခံလာသောကိစ္စမဟုတ်သဖြင့် ဤရုံးမှ ပြန်ကြားစာပေးပို့ခဲ့ခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ ယခုအခါ ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံ၍ သဘောထားမှတ်ချက်တောင်းခံလာသော ကိစ္စဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ၂၂-၂-၂၀၁၉ ရက်နေ့တွင် ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ဌာနချုပ်၊ ရဲထောက်ပံ့ဌာနကြီးမှ (ခေတ္တ) ဒုတိယညွှန်ကြားရေးမှူး ရဲမှူးရဲထွဋ်ကျော်မှ ဤရုံးသို့ လာရောက်ပြီး အထက်ပါကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ၏ ၁-၉-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စီးပွားရေးရာကော်မတီ / အစိုးရအဖွဲ့(၁၂၈/၂၀၁၇) ဖြင့် စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၇) မှ မူအားဖြင့်သဘောတူကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ ၉-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၄ /မ - ၀၄၈ /မ - ၀၄၉ /၂၀၁၉ (၀၂၃) ဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်ပါသဖြင့် ကုမ္ပဏီမှ လိုအပ်ချက်များအားပြင်ဆင်ပြီး ပြန်လည်တင်ပြရန် ပြည်ထဲရေးဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ကြောင်း၊ ရွှေစင်လမင်းကုမ္ပဏီမှာ တင်ဒါအောင်မြင်ခဲ့သော ကုမ္ပဏီဖြစ်ကြောင်း ရှင်းလင်းဆွေးနွေး ပြီး စာရွက်စာတမ်းအထောက်အထားများအား တင်ပြလာပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံ၍ သဘောထားမှတ်ချက် တောင်းခံလာသော စာချုပ်(မူကြမ်း)နှင့် စပ်လျဉ်း၍ ယခင်ဤရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးခဲ့ပြီးဖြစ်ပါသည်။ ထပ်မံပေးပို့လာသော စာချုပ်(မူကြမ်း)မှာ ရည်ညွှန်းချက်(၃)ပါ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြလာခြင်းဖြစ်ကြောင်း တွေ့ရှိရသဖြင့် ယခင်

ရည်ညွှန်းချက်(၃)ပါ ဥပဒေအကြံပြုချက်ကို ထပ်မံအတည်ပြုလျက် ယခုပြင်ဆင်စာချုပ်(မူကြမ်း) အပေါ် ဥပဒေမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၅။ ဤ စာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနကလိုအပ်သလို ဆောင်ရွက်ရန် ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၆။ ရွှေစင်လမင်းကုမ္ပဏီသည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ်မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ ဤ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) ၆/၃/၁၉

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်



စာအမှတ်၊ ၂(၅) ၄ - ၁၆/ နပတ(၎ ၉ ၅)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂၃ ရက်

ပြည်ထဲရေးဝန်ကြီးဌာန

အကြောင်းအရာ။ ပြည်ထဲရေးဝန်ကြီးဌာနနှင့် ရွှေစင်လမင်းကုမ္ပဏီတို့အကြား ချုပ်ဆိုသည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ ပြည်ထဲရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၅-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ပထရ / ၂ - ၃ (၅၈၄) / ၃ - ထောက် ၄

၁။ ပြည်ထဲရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့် ရွှေစင်လမင်းကုမ္ပဏီတို့အကြား အကျိုးတူဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ စာချုပ်ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာတွင် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အမှတ်(၄) ရပ်ကွက်၊ ဗိုလ်တထောင်ဘုရားလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၀- ဂျေ)၊ ဗိုလ်တထောင် မြို့မရဲစခန်း မြေ ၀.၈၂၆ ဧကပေါ်တွင် မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး/ ရဲစခန်း(အချုပ်ပါ) ၈ ထပ် အဆောက်အအုံ ၁ လုံး၊ ၄ ခန်းတွဲ ၈ ထပ် ၁ လုံး၊ ၆ ခန်းတွဲ ၈ ထပ် ၂ လုံး၊ လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းမြေနေရာ ၀.၂၄၄ ဧကပေါ်တွင် ၈ ခန်းတွဲ ၈ ထပ် ၁ လုံး၊ အလုံမြို့နယ်၊ ပိတောက်မြိုင် ရဲရိပ်သာ မြေပေါ်တွင် ၆ ခန်းတွဲ ၈ ထပ် ၁ လုံး၊ စုစုပေါင်း အဆောက်အအုံ ၆ လုံးအား အကျိုးတူ ဆောင်ရွက်ရန် တင်ဒါအောင်မြင်သည့် ရွှေစင်လမင်းကုမ္ပဏီမှ ဆောက်လုပ်ပေးသွားမည်ဖြစ်ပြီး

အကျိုးတူခံစားခွင့်အနေဖြင့် ပါရမီစက်ပြင် အလုပ်ရုံနေရာ ၂.၇ ဧကနှင့် မှူးယစ်ပြတိုက်ဝင်း မြေနေရာ ၁၆.၂၆၆ ဧကအနက် ကျွန်းတောလမ်း၊ ဈေးဆိုင်တန်းများဘက်ရှိ ၁.၈၂၉၆ ဧကအား အသုံးပြုခွင့်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသော B. O. T စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) ၏ စာချုပ်ဝင်အား ပုံစံကျနမှုရှိစေရန် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂ (ခ)တွင် "အဆောက်အအုံတည်ဆောက်မည့် အပိုဒ် ၂(က) မြေနေရာတွင် ဆောက်လုပ်ရန် လျာထားသောအဆောက်အအုံ အကွက်ချမြေနေရာပုံစံကို နောက်ဆက်တွဲ (က)ဖြင့် ပူးတွဲထားပါသည်"ဟု ဖော်ပြထားသော်လည်း အဆိုပါ နောက်ဆက်တွဲ(က) သည် စာချုပ် (မူကြမ်း)တွင် ပူးတွဲပါရှိလာခြင်းမရှိသဖြင့် စစ်ဆေးနိုင်ခြင်းမရှိပါ။ သို့ဖြစ်ပါ၍ အဆောက်အဦများ တည်ဆောက်မည့် မြေနေရာအား မြေပုံဖြင့် တိကျစွာဖော်ပြသင့်ပါသည်။ ယင်းမြေပုံသည် သက်ဆိုင်ရာ ဌာနမှ တရားဝင်ရေးဆွဲထားသည့် မြေပုံဖြစ်ရန် လိုအပ်ပြီး စာချုပ်ချုပ်ဆိုချိန်တွင် နောက်ဆက်တွဲအဖြစ် ပူးတွဲထားရှိပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၂(ခ) ပါ မြေပေါ်တွင် မည်ကဲ့သို့သော အဆောက်အအုံများ တည်ဆောက်မည်ဖြစ်ကြောင်း၊ မည်သည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ သို့ပါ၍ လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူမှ မည်သည့်အဆောက်အအုံများ ဆောက်လုပ်မည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်။ ထို့ပြင် အပိုဒ် ၂(ခ)ပါ မြေနေရာများနှင့် ပတ်သက်၍ မြေငှားစာချုပ်သီးခြားချုပ်ဆို ဆောင်ရွက်ရမည်ဖြစ်ပါသည်။ ယင်းကိစ္စနှင့် စပ်လျဉ်း၍ ညှိရုံးသို့ စာချုပ်(မူကြမ်း)

ပေးပို့ အကြံပြုချက်တောင်းခံပါက အကြံပြု ပြန်ကြားပေးမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၂(ဂ)တွင် ဖော်ပြထားသည့် YCDC ၏ အမည်အပြည့်အစုံကို မြန်မာဘာသာဖြင့် ဖော်ပြရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၃ (က)တွင် ဖော်ပြထားသော လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူမှ တည်ဆောက်ပေးမည့် အဆောက်အအုံများနှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ဆောက်လုပ်ရမည့် ဒီဇိုင်းပုံစံ၊ သတ်မှတ်ထားသည့် စံချိန်စံညွှန်းစသည်တို့နှင့် စပ်လျဉ်း၍ သတ်မှတ်ချက်များကို စာချုပ်တွင် နောက်ဆက်တွဲအဖြစ် ပူးတွဲထားရှိသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၃ (က)နှင့် (ခ)တို့တွင် ဖော်ပြထားသည့် အဆောက်အအုံများ တည်ဆောက်ခြင်းအတွက် မတည်ရင်းနှီးငွေ မည်မျှ ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိသဖြင့် ဖော်ပြရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၃(ခ)တွင် "×××××အဆောက်အအုံများ တည်ဆောက်၍နှစ်၅၀+၁၀နှစ်+၁၀နှစ်၊ စုစုပေါင်း နှစ် ၇၀ အသုံးချခွင့်ပြုပြီး သက်တမ်းပြီးချိန်တွင် နှစ်ဦးနှစ်ဖက်ဆက်လက် ညှိနှိုင်း၍ဆောင်ရွက် ပါမည်ဟုလည်းကောင်း၊ အပိုဒ် ၆(ခ) တွင် "×××××× ဖက်စပ်လုပ်ငန်း များလုပ်ကိုင်ခြင်း၊ အကျိုးတူပူးပေါင်း ဆောင်ရွက်ခြင်းများကို ရင်းနှီးမြှုပ်နှံမှု ဥပဒေများအရ နှစ် ၅၀+၁၀ နှစ်+၁၀ နှစ် ဖြင့် နှစ်ရှည်ငှားရမ်းပြီး လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်သဘောတူပါသည်ဟုလည်းကောင်း၊ အပိုဒ် ၁၂ တွင် "×××××ကနဦး နှစ် ၅၀ ငှားရမ်းပြီး တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် သက်တမ်း ၂ ကြိမ် စာချုပ်သက်တမ်းတိုးမြှင့်ခြင်း အား နှစ်ဖက်သဘောတူညီချက်ဖြင့် တိုးမြှင့်နိုင်ပြီး မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ

အတည်ဖြစ်စေရမည်”ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၅၀ (က) ၌ “ဤဥပဒေအရ ခွင့်ပြုမိန့်ရရှိထားသော သို့မဟုတ် အတည်ပြုမိန့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် ပုဂ္ဂလိကမြေ သို့မဟုတ် အဆောက်အအုံ ဖြစ်ပါက ပိုင်ရှင်ထံမှလည်းကောင်း၊ အစိုးရက စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေ၊ နိုင်ငံတော်ပိုင်မြေ သို့မဟုတ် အဆောက်အအုံဖြစ်ပါက သက်ဆိုင်ရာအစိုးရ ဌာန၊ အစိုးရအဖွဲ့အစည်းများထံလည်းကောင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အလို့ငှာ သတ်မှတ်ချက်များနှင့် အညီ နှစ်ရှည်မြေ သို့မဟုတ် အဆောက်အအုံ ငှားရမ်းခွင့်ရှိသည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံသူသည် မိမိပိုင်မြေ သို့မဟုတ် အဆောက်အအုံတွင် တည်ဆဲဥပဒေများနှင့်အညီ ရင်းနှီးမြှုပ်နှံနိုင်သည်”ဟု ပြဋ္ဌာန်းထားပါသည်။ သို့ဖြစ်ရာ နှစ်ရှည်မြေငှားရမ်းသက်တမ်းအား ရင်းနှီးမြှုပ်နှံသည့် ပမာဏအပေါ်မူတည်၍ သတ်မှတ် ခွင့်ပြုသင့်ပါသည်။ ငှားရမ်းကာလ ကနဦးနှစ် ၅၀ မှာ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သင့်လျော်သည့် သက်တမ်းဟုတ် မဟုတ် ဌာနမှ ပြန်လည် စိစစ်သင့်ပါသည်။ ထို့ပြင် B.O.T စနစ်ဖြင့် ဆောင်ရွက်ရာတွင် အရင်းကျေ ကာလနှင့် သင့်လျော်သော အကျိုးအမြတ်အတွက် ကာလ ၂ ခုပေါင်း၍ ကာလတစ်ခု သတ်မှတ်ခွင့် ပြုသင့်ပါသဖြင့် ကနဦးနှစ် ၅၀ ကာလခွင့်ပြုခြင်းမှာ သင့်လျော်မှုရှိ မရှိစိစစ်သင့်ပါသည်။ ကနဦး သင့်လျော်သော ကာလသတ်မှတ်ပြီးမှသာ သက်တမ်းတိုးခြင်းအား စဉ်းစားဆောင်ရွက်သင့်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် ၆ (ခ) တွင် “လုပ်ငန်းလက်ခံသူသည် လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူထံသို့ အပိုဒ် ၂(ခ) ပါ မြေနေရာပေါ်တွင် မိမိတို့လုပ်ငန်းနှင့် ကိုက်ညီသည့် အဆောက်အအုံများ တည်ဆောက်ပြီး ဖက်စပ်လုပ်ငန်းများ လုပ်ကိုင်ခြင်းအကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းများ

ကို ရင်းနှီးမြှုပ်နှံမှုဥပဒေများအရ နှစ် ၅၀+၁၀+၁၀ နှစ်ဖြင့် နှစ်ရှည်ငှားရမ်းပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် သဘောတူပါသည်" ဟု ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ B.O.T မှာ သတ်မှတ်ကာလပြီးလျှင် ဌာနသို့ မြေနှင့် အဆောက်အအုံလုပ်ငန်းများ ပြန်လည်လွှဲပြောင်းပေးရန် ဖြစ်ပါသဖြင့် ကနဦးကာလပြီးလျှင် သက်တမ်းတိုးရန်ကိစ္စမှာ လုံလောက်သော အကြောင်းပြချက်ရှိရပါသည်။ ထို့ပြင် ယခုစာချုပ်သည် B.O.T နှင့် အကျိုးတူဖက်စပ်လုပ်ငန်းလုပ်ကိုင်ခြင်းကိစ္စများ ရောထွေးလျက်ရှိသဖြင့် ပြန်လည်စိစစ်ဆောင်ရွက်သင့်ကြောင်း ဖော်ပြအပ်ပါသည်။လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူမှ တည်ဆောက်မည့် အဆောက်အအုံများ၊ ဆောင်ရွက်မည့်ဖက်စပ်လုပ်ငန်းများနှင့်အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်း လုပ်ငန်းများမှာ မည်သည့်လုပ်ငန်းများဖြစ်သည်ကို တိကျစွာဖော်ပြရန်ဖြစ်ပြီး လုပ်ငန်းအပ်နှံသူအနေဖြင့် လက်ခံနိုင်သည့် အနေအထားဟုတ် မဟုတ် ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၆(ဂ) တွင် "လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူ သည် အပိုဒ် ၂(ခ)ပါ မြေနေရာတွင် ဆောက်လုပ်ပြီးစီးသည့် ××××××× × လွတ်လပ်စွာ ငှားရမ်းခြင်း၊ ဖက်စပ်လုပ်ကိုင်ခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ခြင်း၊ အသုံးပြုပိုင်ခွင့်များ ပြုလုပ်နိုင်ပါသည်" ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ - ၇၂ တွင် ခွင့်ပြုမိန့် သို့မဟုတ် အတည်ပြုမိန့်ရယူထားသော ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်း၊ လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို ကော်မရှင်သို့ အသိပေးတင်ပြရမည်"ဟု ပြဋ္ဌာန်းထားသဖြင့်

ယင်းပြဋ္ဌာန်းချက်နှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါသည်။ ထို့ပြင် ထိုသို့ဆောင်ရွက်ခြင်းအတွက် ဌာန၏ ကြိုတင်သဘောတူညီချက်ရယူသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၆ (ဃ) "××××××××အပိုဒ် ၂(ခ) မြေနှင့်အဆောက်အအုံပေါ်ရှိ လုပ်ကိုင်နေသည့် လုပ်ငန်းများအပေါ် ပိတ်ပင်တားဆီးခြင်းပြုလုပ်ခွင့်မရှိကြောင်း၊ လုပ်ငန်းအပ်နှံသူက သိရှိသဘောတူပါသည်"ဟု ဖော်ပြထားပါသည်။ ဌာနမှ လက်ခံနိုင်ခြင်းရှိ မရှိပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူ တည်ဆောက်ထားသည့် အပိုဒ် ၂(ခ) မြေနှင့် အဆောက်အအုံပေါ်ရှိ လုပ်ကိုင်နေသည့် လုပ်ငန်းများနှင့်စပ်လျဉ်း၍ ဌာန၏သဘောတူခွင့်ပြုချက်မရှိဘဲ ဆောင်ရွက်ခြင်းသော်လည်းကောင်း၊ ဥပဒေနှင့် ညီညွတ်ခြင်းမရှိသည့် ကိစ္စများဆောင်ရွက်ခြင်းသော်လည်းကောင်း တွေ့ရှိရပါက အရေးယူနိုင်မည်ဟူသော စည်းကမ်းချက်ကိုလည်း ဖြည့်စွက်ဖော်ပြရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၈ "မလွန်ဆန်နိုင်သောဖြစ်ရပ်များ"စည်းကမ်းချက်နှင့် စပ်လျဉ်း၍ ပိုမိုပြည့်စုံမှုရှိစေရန် အလားတူ စာချုပ်များတွင် အသုံးပြုလေ့ရှိသော နမူနာပုံစံအား Slip ကပ်ပေးလိုက်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂၊ အပိုဒ် ၁၄ နှင့် အပိုဒ် ၁၇ တို့တွင် ရွှေစင်လမင်းကုမ္ပဏီအား "လုပ်ငန်းလက်ခံသူ"ဟု ရည်ညွှန်းသုံးနှုန်းထားကြောင်း တွေ့ရှိရပါသည်။ စာချုပ်ဝင်စာပိုဒ်တွင် ရွှေစင်လမင်းကုမ္ပဏီအား "လုပ်ငန်းလက်ခံ၍ ရင်းနှီးမြှုပ်နှံသူ"ဟု ရည်ညွှန်းသုံးနှုန်းမည်ဖြစ်ကြောင်း ဖော်ပြထားကြောင်း တွေ့ရှိရသဖြင့် ရည်ညွှန်းသုံးနှုန်းသည့် အသုံးအနှုန်းများတစ်ပြေးညီဖြစ်စေရေးအတွက် ဌာနက ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ "အငြင်းပွားမှုဖြေရှင်းခြင်းနှင့် စပ်လျဉ်း၍ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက်အမှတ် ၁/၂၀၁၇ အပိုဒ် ၄၈ (ည)တွင်

စာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရာ၌ တစ်စုံတစ်ခုသော အကြောင်းအချက်အရ နှစ်ဖက်အငြင်းပွားမှုဖြစ်ပွားလျှင် တရားရုံး၏ ဆုံးဖြတ်ချက်သည်သာ အတည်ဖြစ်သည်"ဟု ညွှန်ကြားထားသဖြင့် ယင်းညွှန်ကြားချက်နှင့်အညီ ဖော်ပြရန်ဖြစ်ပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄(ဃ)တွင် "ရင်းနှီးမြှုပ်နှံသူက လုပ်ငန်း ဆောင်ရွက်ရာတွင် ဆက်တိုက်အရှုံးပေါ်နေသည့်အခါ" ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိဟု သဘောရရှိပါသည်။ အရှုံးပေါ်သည့် ကာလတစ်ခုအား တိကျစွာသတ်မှတ်ဖော်ပြသင့်သည်ဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည် စိစစ်ရန်ဖြစ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅ တွင် "ဤသဘောတူစာချုပ်၏ သက်တမ်းသည် ဤသဘောတူစာချုပ်ပါ သတ်မှတ်ချက်များနှင့်အညီ ဆက်လက်အတည် ဖြစ်စေရမည်"ဟု ဖော်ပြထားရာ ရှင်းလင်းတိကျမှုမရှိ၍ ကာလတစ်ခုခု သတ်မှတ်၍ ရှင်းလင်းတိကျစွာ ဖော်ပြသင့်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)တွင် ဥပဒေရေးရာ စာပိုဒ်ဖြစ်သော စာချုပ်အား ပြန်လည် ဖေ့စပ်ညှိနှိုင်းခြင်းအတွက် စည်းကမ်းချက်မပါရှိသဖြင့် အလားတူစာချုပ်များ တွင် အသုံးပြုလေ့ရှိသော နမူနာပုံစံအား Slip ကပ်ပေးလိုက်ပါသည်။ ထို့ပြင် မြေနှင့် အဆောက်အအုံသို့ပြန်လည်ဝင်ရောက်ခြင်းနှင့် မြေနှင့် အဆောက်အအုံ ကို ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း စည်းကမ်းချက်များ မပါရှိသဖြင့် အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော နမူနာပုံစံများကို Slip ကပ်ပေးလိုက်ပါသည်။ ဌာနလိုအပ်ချက်နှင့်အညီ အသုံးပြုရန်ဖြစ်ပါသည်၊

(ဃ) မြေငှားရမ်းခြင်းကိစ္စနှင့် စပ်လျဉ်း၍ မြေငှားရမ်းခြင်းစာချုပ်အား တည်ဆဲစာချုပ် စာတမ်းမှတ်ပုံတင်ခြင်း ဥပဒေနှင့်အညီ စာချုပ်စာတမ်းမှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ရမည်ဖြစ်ပါသည်၊

(င) လိုအပ်သော နေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၃။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ ရွှေစင်လမင်းကုမ္ပဏီသည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ်မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ်စသည်တို့ကို ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ ၃ စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)

(ဒေါက်တာသိတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

# ပြည်ထဲရေးဝန်ကြီးဌာန၊မြန်မာနိုင်ငံရဲတပ်ဖွဲ့ဌာနချုပ်
# နှင့်
# ရွှေစင်လမင်းကုမ္ပဏီတို့အကြား ချုပ်ဆိုသည့် ဌာနပိုင်မြေပေါ်တွင် Shopping Complex၊ Business Center နှင့် Shop House များ တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်း သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၉ ခုနှစ်၊ လ ( ) ရက်နေ့တွင် နေပြည်တော်၌ ရဲ ၃၇၇၇ ရဲမှူးချုပ် သန်းတင်အောင်(ရဲထောက်ချုပ်)၊ ပြည်ထဲရေးဝန်ကြီးဌာနကိုယ်စားပြုသော မြန်မာနိုင်ငံရဲတပ်ဖွဲ့ဌာနချုပ်(နောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါစကားရပ်၌ ယင်းအားဆက်ခံသူများ၊ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်နှင့် ဦးတင်ငြိမ်း၊ နိုင်ငံသား စိစစ်ရေးကဒ်ပြားအမှတ်၊၁၄/ဖပန(နိုင်)၁၆၄၇၄၆၊ မန်နေဂျင်းဒါရိုက်တာကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော အမှတ်(၂၅)၊အခန်း(၈၀၈)၊ယုဇန စီးပွားရေးတာဝါ၊ ဓမ္မစေတီလမ်း၊ စမ်းချောင်းမြို့နယ်တွင်တည်ရှိသည့် ရွှေစင်လမင်းကုမ္ပဏီ (နောင်တွင်"လုပ်ငန်းဆောင်ရွက်ခွင့်ရသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါစကားရပ်၌ ယင်းအားဆက်ခံသူများ၊တရားဝင် ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် ဤသဘောတူ စာချုပ်ကို ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

၁။ လုပ်ငန်းဆောင်ရွက်ခွင့်ရသူမှ အပိုဒ် ၃(က)(ခ)ပါ မြေနေရာများတွင် BOT စနစ်ဖြင့် Shopping Complex၊ Business Center နှင့် Shop House များ တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ရန် ရည်ရွယ်ပါသည်။ထိုသို့အပိုဒ် ၃(က)(ခ)ပါမြေနေရာများတွင် BOT စနစ်ဖြင့် နှစ်ရှည်ဆောင်ရွက်ခွင့် ရရှိ၍ အပိုဒ် ၅ ပါမြေပေါ်တွင် အပိုဒ် ၆ ပါ အဆောက်အဦများကို ဌာနအတွက် ဆောက်လုပ်ပေးမည် ဖြစ်ပါသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် အပိုဒ် ၃၊ အပိုဒ်ခွဲ ၃(က)၊ ၃(ခ)တွင် ဖော်ပြထားသော မြေများကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိသူ (သို့မဟုတ်) ငှားရမ်းခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။လုပ်ငန်း ဆောင်ရွက်ခွင့်ရသူသည် စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်းဆောင်ရွက်ခွင့်ရသူတို့သည် စာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

**နှစ်ရှည်အသုံးချခွင့် ပြုမည့်မြေနေရာ**

၃။ (က) ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ရန်ကင်း(၈)ရပ်ကွက်၊ ပါရမီလမ်း၊ ချော်တွင်းကုန်း မီးပွိုင့်နှင့် မဥ္ဇူလမ်းမီးပွိုင့်ကြား မြေတိုင်းရပ်ကွက်အမှတ်(၄၂-ခ)၊ မြေကွက်အမှတ်(၄)၊ ၂(က)နှင့် ၂(ခ) ပါရမီရဲစက်ပြင်ဝင်းရှိ မြေဧရိယာ ၂.၆၆၆ ဧက။(တည်နေရာပြမြေပုံနှင့် တည်ဆောက်မည့် အဆောက်အဦစာရင်း၊ဒီဇိုင်းပုံစံ၊စံချိန်စံညွှန်းတို့ကို နောက်ဆက်တွဲ ( )ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(ခ) ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ဟံသာဝတီလမ်းနှင့်ကျွန်းတောလမ်းထောင့် မြေတိုင်းရပ်ကွက်အမှတ်(37-F)၊ မြေကွက်အမှတ်(၁-အီး)မှူးယစ်ပြတိုက်ဝင်းရှိ မြေဧရိယာ ၁၆.၂၆၆ ဧကအနက် မြေဧရိယာ ၁.၈၂၉၆ ဧက။(တည်နေရာပြမြေပုံနှင့် တည်ဆောက်မည့် အဆောက်အဦစာရင်း၊ဒီဇိုင်းပုံစံ၊စံချိန်စံညွှန်းတို့ကို နောက်ဆက်တွဲ ( )ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

**ရင်းနှီးမြှုပ်နှံမှုပမာဏ**

၄။ အထက်အပိုဒ် ၃ ပါမြေပေါ်တွင် ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ သန်း ၂၀ နှင့် သန်း ၃၀ ကြားဖြစ်ပါသည်။

**ဌာနအတွက် ဆောင်ရွက်ပေးမည့်အစီအစဉ်**

၅။ အဆောက်အဦများ တည်ဆောက်မည့်မြေနေရာမှာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ဌာနပိုင်ဖြစ်သော ရန်ကုန်တိုင်းဒေသကြီးမိုလ်တထောင်မြို့နယ်၊အမှတ်(၄)ရပ်ကွက်ဗိုလ်တထောင်ဘုရားလမ်းနှင့် ကုန်သည်လမ်းထောင့် အမှတ်(၁၁၂)တည်ရှိရာ မြေတိုင်းရပ်ကွက်(၁၀ဂျေ)၊အလျား ၂၀၅ ပေ၊ အနံ၁၇၈ ပေရှိ မြေဧရိယာ ၀.၈၂၆ ဧကခန့်ရှိ မြေပေါ်တွင် ဤသဘောတူစာချုပ်၏ အပိုဒ် ၆ ပါအဆောက်အဦများကို တည်ဆောက်မည့် လုပ်ငန်းများ ဖြစ်ပါသည်။(တည်နေရာပြမြေပုံအား နောက်ဆက်တွဲ( )ဖြင့် ဖော်ပြထားပါသည်။)

၆။ လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူဌာနပိုင်ဖြစ်သည့် အထက်အပိုဒ် ၅ ပါ မြေပေါ်တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူရေးဆွဲထားသည့် နောက်ဆက်တွဲ( )ပါ ဒီဇိုင်းပုံစံ၊ သတ်မှတ်ထားသော စံချိန်စံညွှန်းပြည့်မီသော အဆောက်အဦများကို မိမိစရိတ်ဖြင့် ကျပ်သန်း (၁၁၁၆၃.၃၁၆)နှင့် ပြီးစီးအောင် တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ လွှဲပြောင်းအပ်နှံပေးရပါမည်။

အထက်ပါ အပိုဒ် ၅ ပါ မြေပေါ်တွင် တည်ဆောက်ပေးမည့်အဆောက်အဦများ

(က) အလျား ၁၁၉ ပေ၊ အနံ ၄၁ ပေရှိ ၆ ခန်းတွဲ ၈ ထပ်အဆောက်အဦ ၂ လုံး စုစုပေါင်း ဧရိယာ ၇၈၀၆၄ စတုရန်းပေ။

(ခ) အလျား ၇၈ ပေ၊ အနံ ၆၁ ပေရှိ ၄ ခန်းတွဲ ၈ ထပ်အဆောက်အဦ ၁ လုံး စုစုပေါင်း **ဧရိယာ ၃၇၄၄၀ စတုရန်းပေ။**

(ဂ) အလျား ၅၈ ပေ၊ အနံ ၄၀ ပေရှိ ၈ ထပ်၊ ရုံးပါအဆောက်အဦ ၁ လုံး စုစုပေါင်း ဧရိယာ ၁၉၂၀၀ စတုရန်းပေ။

(ဃ) လမ်းမတော်မြို့နယ်၊ ဝါးတန်းလမ်းတွင် အလျား ၁၅၃ ပေ၊ အနံ ၄၁ ပေရှိ ၈ ခန်းတွဲ ၈ ထပ် အဆောက်အဦ ၁ လုံး စုစုပေါင်း ဧရိယာ ၅၀၁၈၄ စတုရန်းပေ။

(င) စမ်းချောင်းမြို့နယ်၊ အလုံလမ်း၊ ပိတောက်မြိုင်ရဲရိပ်သာတွင် အလျား ၁၁၉ ပေ၊ အနံ ၄၁ ပေရှိ ၆ ခန်းတွဲ၈ ထပ်အဆောက်အဦ ၁ လုံး စုစုပေါင်း ဧရိယာ ၃၉၀၃၂ စတုရန်းပေ။

(စ) **ဆက်စပ်လုပ်ငန်းများမှာ**

(၁) အမြင့် ၇ ပေရှိ အုတ်စည်းရိုးကာရံပေးခြင်း။

(၂) အကျယ် ၁၀ ပေ၊ ထု ၉ လက်မ ကွန်ကရစ်လမ်းခင်းပေးခြင်း။

(၃) အကျယ် ၃ ပေ၊ အနက် ၂ ပေ ရေနုတ်မြောင်းပြုလုပ်ပေးခြင်း။

(၄) နေထိုင်သည့်လူဦးရေအားလုံးအတွက် လုံလောက်သည့် သုံးရေရရှိရန်ဆောင်ရွက်ပေးခြင်း။

(၅) နေထိုင်သည့်လူဦးရေအားလုံးအတွက် လုံလောက်သည့်လျှပ်စစ်မီး (ထရန်စဖော်မာ အပါအဝင်) ရရှိရန် ဆောင်ရွက်ပေးခြင်း။

(၆) ရဲစခန်းရုံးအဆောက်အဦအတွက် ၂၀၀ ကေဗွီအေ(အရန်မီးစက် ၁ လုံး)တပ်ဆင်ပေးရန်။

၇။ အပိုဒ် ၅ ပါ မြေပေါ်တွင် တည်ဆောက်မည့်အဆောက်အဦများကို လုပ်ငန်းစတင်သည့်နေ့မှ ၃ နှစ် ပြည့်လျှင် လုပ်ငန်းပြီးဆုံးရက်ဖြစ်ပါမည်။ သတ်မှတ်သည့်ကာလ ကျော်လွန်သည့်နေ့ရက်တွင် အဆောက်အဦအပ်နှံခြင်းမပြုနိုင်ပါက တစ်ရက်လျှင်ဒဏ်ကြေးငွေကျပ် (စီမံကိန်းတန်ဖိုး၏ ၀.၀၁ %)နှုန်းဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရသူက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ ပေးဆောင်ရမည်။အဆောက်အဦ တည်ဆောက် လုပ်ကိုင်ချိန်တွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များရှိ၍ လုပ်ငန်းရပ်ဆိုင်းရပါက အဆိုပါကာလသည် ပြီးစီးရန် သတ်မှတ်သည့် ၃ နှစ် အတွင်းမှ ခုနှိမ်ရပါမည်။

**တည်ဆောက်ရေးကာလ**

၈။ အပိုဒ် ၃ ပါ မြေပေါ်တွင် ဆောက်လုပ်မည့် အဆောက်အဦများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ခွင့်ပြုချက်ရရှိပြီး သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများ၏ ခွင့်ပြုချက်ရရှိပြီးသည့် အချိန်မှစ၍ ( )နှစ်အတွင်း အပြီးတည်ဆောက်ရမည်။

**စာချုပ်သက်တမ်း**

၉။ စာချုပ်သက်တမ်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး ဤစာချုပ်လက်မှတ်ရေးထိုးသည့် (                    )ရက်နေ့မှ (                    )ရက်နေ့အထိ နှစ်(၅၀)နှစ်ဖြစ်သည်။

**စာချုပ်သက်တမ်းတိုးမြှင့်ခြင်း**

၁၀။ လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီ အနည်းဆုံး ၃ လ ကြိုတင်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့စာဖြင့် အကြောင်းကြား တင်ပြရမည်။ ကနဦး အနှစ်(၅၀)မြေအသုံးချပြီး မြေအသုံးချခွင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းအား နှစ်ဘက်သဘောတူညီထားပြီး ဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံတင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

**စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၁၁။ ဤစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၂။ ဤသဘောတူ စာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက အဆိုပါ အငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာညှိနှိုင်းဖြေရှင်းကြရမည်။ ထိုကဲ့သို့ ငြိမ်းချမ်းစွာ ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာတရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် အောက်ပါတို့ကိုဆောင်ရွက်ပေးရမည်-

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် စီမံကိန်းတည်ဆောက်မည့် အပိုဒ် ၃ ပါမြေနေရာကို တိကျစွာ သတ်မှတ်၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ တရားဝင်ထုတ်ပေးသည့် ပုံစံ(၁၀၅/၁၀၆)မြေပုံများကိုရေးကူးပေးရပါမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းဆောင်ရွက်ခွင့်ရသူမှ စီမံကိန်း အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းများလျင်မြန်စွာ ပြီးစီးဆောင်ရွက်နိုင်ရန်အတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ အပါအဝင် သက်ဆိုင်ရာအစိုးရဌာနများ၏ ခွင့်ပြုချက်များကိုပါ ဆောင်ရွက်ပေးရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် အဆောက်အဦပြီးစီး၍ လူနေထိုင်ခွင့် BCC ရရှိအောင် ဆောင်ရွက်ပေးရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းဆောင်ရွက်ခွင့်ရသူမှ အပိုဒ် ၃ ပါ မြေနေရာများပေါ်တွင် အဆောက်အဦများ တည်ဆောက်ပြီးနောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် အခြားရင်းနှီးမြှုပ်နှံသူများနှင့် ငှားရမ်းခြင်း၊ ဖက်စပ်လုပ်ကိုင်ခြင်း၊ စီးပွားရေးလုပ်ငန်းများ အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ကိုင်ခွင့်ပြုရမည်။

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ဤစာချုပ်ချုပ်ဆိုပြီးချိန်၌ အပိုဒ် ၃ ပါမြေနေရာများအား လုပ်ငန်း ဆောင်ရွက်နိုင်ရန် လုပ်ငန်းဆောင်ရွက်ခွင့်ရသူထံသို့ အချိန်နှင့်တပြေးညီ လွှဲပြောင်းပေးရမည်။

**လုပ်ငန်းဆောင်ရွက်ခွင့်ရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၄။ လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် အောက်ပါတို့ကိုဆောင်ရွက်ပေးရမည်-

(က) လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် အပိုဒ် ၆ ပါ အဆောက်အဦများအား လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူ၏ ပုံစံပါအတိုင်း (ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရေးဆွဲထားသည့် Structure များ အတိုင်း) တိကျစွာ ဆောက်လုပ်ရမည်။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် လုပ်ငန်းအတွက်လိုအပ်သော ကုန်ကျစရိတ်များကို လုပ်ငန်း ပြီးသည်အထိ ကျခံသုံးစွဲမည်ဖြစ်ပါသည်။

(ဂ) လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် အပိုဒ် ၃ ပါမြေပေါ်၌ အဆောက်အဦများ တည်ဆောက်ပြီးပါက ယင်းမြေနှင့်အဆောက်အဦတွင် ဥပဒေနှင့်ညီညွတ်ခြင်းမရှိသည့် ကိစ္စများ ဆောင်ရွက်သည်ကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှတွေ့ရှိပါက မြေနှင့်အဆောက်အဦကို ပြန်လည်အပ်နှံရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေ စိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဘက်ဘက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် လုပ်ငန်းဆောင်ရွက်မှုကို ထိခိုက် ဆုံးရှုံးစေလျှင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းဆောင်ရွက်ခွင့်ရသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့် အချိန်မှ ၁၄ ရက်အတွင်း လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသို့ ချက်ချင်းစာဖြင့်ရေးသား အကြောင်းကြားရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက လက်ခံအတည်ပြုလျှင်

မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး စာချုပ်ပါလုပ်ငန်းဆောင်ရွက်မှုနှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် သက်သာခွင့်ပြုနိုင်သည်။

မြေနှင့်အဆောက်အဦအား ပြန်လည်ဝင်ရောက်ခြင်း

၁၆။ လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန် လုပ်ငန်းဆောင်ရွက်ခွင့်ရသူသို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းဆောင်ရွက်သည့် မြေနှင့်အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ရောက် ရယူခွင့်ရှိသည်။ ယင်းသို့ ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက လုပ်ငန်းဆောင်ရွက်ခွင့် ရသူထံမှ ရရန်ရှိသော မြေအသုံးပြုခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**မြေနှင့်အဆောက်အဦအား ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၇။ ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်းကုန်ဆုံးသည့် အခါဖြစ်စေ(သို့မဟုတ်) စာချုပ်ရုပ်စဲသည့်အခါဖြစ်စေ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့(သို့မဟုတ်)စာချုပ်ရုပ်စဲသည့်နေ့မှ------လအတွင်း လုပ်ငန်းဆောင်ရွက်ခွင့်ရသူသည် အသုံးချခွင့်ပြုထားသည့်မြေနှင့် အဆောက်အဦတို့အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသို့ အဖိုးစားနားတစ်စုံတစ်ရာမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

**စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၁၈။ ဤသဘောတူ စာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေ တစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်စေ့စပ် ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ် ညှိနှိုင်းဆောင်ရွက်ရမည်။

**ရှေးဟောင်းပစ္စည်းများနှင့်အဖိုးတန်ပစ္စည်းများ**

၁၉။ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေကွက်ကိုတူးဖော်ခြင်း၊ အုတ်မြစ်ချခြင်းများပြုလုပ်ရာတွင် ရှေးဟောင်းပစ္စည်းများ၊ စိန်၊ ရွှေ၊ ငွေ၊ ကျောက်သံ၊ ပတ္တမြား စသော အဖိုးတန်ရတနာများ၊ ရေနံ၊ ဓာတ်သတ္တုပစ္စည်းများတွေ့ရှိပါက မခြွင်းမချန် ချက်ချင်းသက်ဆိုင်ရာသို့ အကြောင်းကြား၍ ပေးအပ်ရန် လုပ်ငန်းဆောင်ရွက်ခွင့်ရသူမှ တာဝန်ယူပါသည်။အကယ်၍ ရေနံ၊ ဓာတ်ငွေ့၊ ရတနာသိုက်၊ သတ္တု၊ ကျောက်မီးသွေးနှင့် အခြားအဖိုးတန် သယံဇာတပစ္စည်းများကို တွေ့ရှိပြီး စီးပွားရေးလုပ်ကိုင်နိုင်မည့်

